# မာတိကာ

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
|  |

# အမှာစာ

بسم الله الرحمن الرحيم

စာရှုသူလက်ဝယ်ရှိ تيسير النحو အမည်ရှိ ဤစာအုပ်သည် النحو العربي (အရဗီ သဒ္ဒါ)ကို စတင်လေ့လာသင်ယူလိုသော ရင်သွေးငယ်များအတွက် ရည်ရွယ်ပြုစုထားခြင်းဖြစ်ပါသည်။ ဤကျမ်းငယ်သည် အခြားသောကျမ်းကြီးများအတွက် သော့တစ်ချောင်းသဖွယ်ဖြစ်ပါသည်။ ကျွန်ုပ်သည် ဤကျမ်းငယ်ကို ပြုစုရာတွင် အချို့သော အရဗီကျမ်းများ နှင့်အတူ ကျေးဇူးရှင်ဆရာသခင်ကြီး ဟဇရတ်မော်လာနာ မုဖ်သီ စအီးဒ် အဟ်မဒ်ပါလန်ပူရီ رحمه الله သခင်ကြီး၏ آسان نحو စာအုပ်ကို အထူးမှီငြမ်းခဲ့ပါသည်။ ဥပဒေတစ်ခုတိုင်းကို တင်ပြရာတွင် လိုရင်းတိုရှင်းကိုသာ တင်ပြထားသည်။ သင်ခန်းစာတစ်ခုတိုင်းကိုလည်း တစ်မျက်နှာအတွင်းဖော်ပြနိုင်ရန် ကြိုးစားထားပါသည်။ ရိုးရှင်းလွယ်ကူမှုကို ဤကျမ်းငယ်၏ ထူးခြားချက်အဖြစ်ပြုလုပ်ထားပါသည်။ အရဗီစာပေ စတင်သင်ယူလိုသော ရင်သွေး

ငယ်များအတွက် النحو အခြေခံစာအုပ်တစ်အုပ် စီစဉ်နိုင်ခြင်းအပေါ် အလ္လာဟ်အရှင်မြတ်ကို အထူးကျေးဇူးတင်ရှိပါသည်။ ဤစာအုပ်ရေးသားပြုစုနိုင်ရန် အကြောင်းခံဖြစ်ခဲ့သော ဂျာမေ့အဟ်အတ်စ်မားအ်မှ ကျောင်းသူ၊ ကျောင်းသားများကိုလည်း ကျေးဇူးတင်ရှိပါသည်။

ဤစာအုပ်ဖြစ်မြောက်ရေးအတွက် ပါရမီဖြည့်စွက်ပေးခဲ့သော ညီငယ် မုဖ်သီ မုဟာမ္မဒ်အာစွင်းမ် နဒ်ဝီ၊ ဤကျမ်းတစ်အုပ်ကိုလုံးကို အစအဆုံး စာစီပေးပြီး စနစ်တကျဖတ်ရှုဖွယ်အဖြစ် ကြိုးပမ်းသော ချစ်မိတ်ဆွေ မော်လာနာ မုဟာမ္မဒ် ဖိုင်ဆလ် (အလ်ကောင်ဆရီ-ဝါးခယ်မ)နှင့် စာအုပ်အဖုံးအား လှပတင့်တယ်စွာ ဆွဲပေးခဲ့သော مكتبة الحرمين ၏ ပွဲ့ကိုင်ရှင် မုဖ်သီ အဗ်ဒုလ်ဂနီ (နဒ်ဝီ)တို့ကိုလည်း မှတ်တမ်းတင် ဂုဏ်ပြုအပ်ပါသည်။

ဤကျမ်းပါအချက်အလက်များကို ကောက်နှုတ်တင်ပြပေးခဲ့သော ခေတ်အဆက်ဆက်မှ နဟ်ဝ်(အရဗီသဒ္ဒါ) ပညာရှင်များ၊ ဆရာသခင်များနှင့် ဤကျမ်းငယ်ဖြစ်မြောက်

ရေးတွင် အုပ်တစ်ချပ်၊သဲတစ်ပွင့် ပါဝင်ပေးခဲ့သူတိုင်းကို မြင့်မြတ်တော်မူသော အရှင်မြတ်နှစ်ဘာဝနှစ်ဌာတွင် ကောင်းသော အစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။

မုဟမ္မဒ် အိလ်ယားစ် (အဇီဇီ၊မဟ်မူဒီ)

1/Zulqada/ Hijri1444

22/5/2023 (အင်္ဂါနေ့)

# အခြေခံဝေါဟာရများ

 عِلْمُ النَّحْوِ အရဗီစာလုံးများ၏ နောက်ဆုံးဗျည်းပေါ်တွင်ရှိသော သရပြောင်းလဲခြင်း မပြောင်းလဲခြင်းကို လေ့လာသည့်ပညာရပ်ကို عِلْمُ النَّحْوِ ဟုခေါ်သည်။

**အကျိုးကျေးဇူး**

عِلْمُ النَّحْوِ ပညာရပ်သင်ယူခြင်းဖြင့် အရဗီစာပေ ပြောဆို၊ ရေးသား၊ ဖတ်ရွတ်မှု၌ လူသားအား မှားယွင်းမှုမှ ထိန်းသိမ်းကာကွယ်ပေးသည်။

يتب ဤအစက်အပြောက်ငယ်များကို نقطة ဟုခေါ်သည်။

َဤသင်္ကေတကို فَتْحَةٌ ဟုခေါ်သည်။

ِ-ဤသင်္ကေတကို كَسْرَةٌ ဟုခေါ်သည်။

(ُ) ဤသင်္ကေတကို ضُمَّةٌ ဟုခေါ်သည်။

(ً ) ဤသင်္ကေတကို فَتْحَتَانِ ဟုခေါ်သည်။

ٍ- ဤသင်္ကေတကို كَسْرَتَانِ ဟုခေါ်သည်။

ٌ- ဤသင်္ကေတကို ضَمَّتَانِ ဟုခေါ်သည်။
ْ_ ဤသင်္ကေတကို سُكُوْنٌ ဟုခေါ်သည်။

## သင်ခန်းစာ (၁)

### لفظ အကြောင်း

လူတို့နှုတ်မှထွက်သော အသံဟူသ၍ကို لفظ ဟုခေါ် သည်။ ၎င်းသည် (၂) မျိုးရှိပါသည်။ (က) مَوْضُوْعٌ (ခ) مُهْمَلٌ

مَوْضُوْعٌ ဆိုသည်မှာ အနက်အဓိပ္ပါယ်ရှိသည့် အသံကို ခေါ် ဆိုသည်။ ဥပမာ (زَيْدٌ)

مُهْمَلٌ ဆိုသည်မှာ အနက်အဓိပ္ပါယ်မရှိသည့် အသံကို ခေါ်ဆို သည်။ ဥပမာ (دَيْزٌ- زَيْدٌ ၏ ပြောင်းပြန်စာလုံး၊ မည်သည့် အဓိပ္ပါယ်မျှမရှိပါ။)

مَوْضُوْعٌ သည် နှစ်မျိုးရှိပေသည်။ (၁) مُفْرَدٌ (၂) مُرَكَّبٌ

مُفْرَدٌ ဆိုသည်မှာ အဓိပ္ပါယ်တစ်ခုကိုသာ ဖော်ဆောင်သော စာလုံးကို ခေါ်ဆိုသည်။ ၎င်းကို كَلِمَةٌ ဟု၍လည်းခေါ်သည်။ ဥပမာ قَلَمٌ (ကလောင်တံ တစ်ချောင်း)

مُرَكَّبٌ ဆိုသည်မှာ كَلِمَةٌ နှစ်လုံး (သို့) နှစ်လုံးထက်ပို၍ ပေါင်းစပ်ထားသော "ဝါကျ" ကိုခေါ်သည်။ ဥပမာ- كِتَابُ زَيْدٍ (ဇိုက်ဒ်၏ စာအုပ်) زَيْدٌ عَالِمٌ (ဇိုက်ဒ်သည် အာလင်မ်ဖြစ်သည်။

## သင်ခန်းစာ (၂)

كَلِمَةٌ သည် (၃) မျိုးရှိပေသည်။ (၁) اِسْمٌ (၂) فِعْلٌ (၃) حَرْفٌ

اسم ဆိုသည်မှာ အချိန်ကာလနှင့်ပူးတွဲခြင်းမရှိဘဲ မိမိကိုယ်တိုင် အဓိပ္ပါယ်ဖော်ဆောင်နိုင်သော စာလုံးကို ခေါ်သည်။ ဥပမာ مَسْجِدٌ ، فَرَسٌ قَلَمٌ

فعل ဆိုသည်မှာ အချိန်ကာလနှင့်ပူးတွဲ၍ အဓိပ္ပါယ်ဖော်ဆောင်သော စာလုံးကိုခေါ်ဆိုပါသည်။ ဥပမာ- ضَرَبَ

(ထိုသူတစ်ဦးရိုက်ခဲ့သည်။) يَضْرِبُ (ထိုသူတစ်ဦး ရိုက်နေသည်။ ရိုက်လိမ့်မည်။)

حَرْفٌ ဆိုသည်မှာ اِسْمٌ (သို့) فِعْلٌ တစ်ခုခုဖြင့်ပူးတွဲမှသာ အဓိပ္ပါယ်ဖော်ဆောင်နိုင်သော စာလုံးကို ခေါ်ဆိုပါသည်။ ဥပမာ فِيْ (၌၊ မှာ၊ တွင်၊ ဝယ်) مِنْ (မှ၊ ဖြင့်၊ ထဲမှ)

## علامات الاسم (اسم ၏ အမှတ်သင်္ကေတများအကြောင်း)

كَلِمَةٌ တစ်ခုတွင် အောက်ဖော်ပြပါ အမှတ်သင်္ကေတများ တွေ့ရှိပါက ယင်း كَلِمَةٌ ကို اسم ဟုခေါ်သည်။

(၁) كَلِمَةٌ ၏အစတွင် الف،لام တည်ရှိခြင်း။ ဥပမာ– اَلْحَمْدُ

(၂) كَلِمَةٌ ၏ အစတွင် "جَرٌّ" ပေးသော စာလုံးတစ်ခုခုရှိနေခြင်း။ ဥပမာ– فِي الْمَسْجِدِ

(၃) كَلِمَةٌ ၏ အဆုံး၌ تَنْوِيْنٌ ရှိခြင်း။ ဥပမာ– كِتَابٌ

(၄) كَلِمَةٌ သည် مُضَافٌ (ပိုင်ဆိုင်ခံ) مُضَافٌ إِلَيْهِ (ပိုင်ဆိုင်သူ) ဖြစ်ခြင်း။ ဥပမာ– كِتَابُ زَيْدٍ

(၅) كَلِمَةٌ သည် نَعْتٌ (ဝိသေသ)၊ مَنْعُوْتٌ (ဝိသေသရှင်) ဖြစ်ခြင်း။ ဥပမာ– الكِتَابُ الْجَمِيْلُ

(၆) كَلِمَةٌ ၏ ရှေ့တွင် حَرْفُ النِّدَاءِ (ခေါ်ဆိုသည့်အခါ အသုံးပြုသည့် စာလုံး) ရှိခြင်း။ ဥပမာ– يَا عَلِيُّ

**علامات الفعل (فعل ၏ အမှတ်သင်္ကေတများအကြောင်း)**

كَلِمَةٌ တစ်ခုတွင် အောက်ဖော်ပြပါ အမှတ်သင်္ကေတများ တွေ့ရှိပါက ၎င်း كَلِمَةٌ ကို فعل ဟုခေါ်သည်။

(၁) كَلِمَةٌ ၏ အစ၌ قَدْ ဝင်ရောက်ခြင်း။ ဥပမာ– قَدْ سَمِعَ اللّٰهُ

(၂) كَلِمَةٌ ၏ အစ၌ سِيْنٌ ဝင်ရောက်ခြင်း။ ဥပမာ– كَلَّا سَيَعْلَمُوْنَ

(၃) كَلِمَةٌ ၏ အစ၌ سَوْفَ ဝင်ရောက်ခြင်း။ ဥပမာ– سَوْفَ تَعْلَمُوْنَ

(၄) كَلِمَةٌ ၏ အစ၌ جَزْمٌ ပေးသော စာလုံးတည်ရှိခြင်း။ ဥပမာ– **لَمْ** تَفْعَلْ

(၅) كَلِمَةٌ ၏ အဆုံး၌ تَاءُ التَّأْنِيْثِ السَّاكِنَةُ ရှိခြင်း။ ဥပမာ– قَرَأَ**تْ**

## عَلَامَاتُ الْحَرْفِ (ဝိဘတ်၏ အမှတ်သင်္ကေတများအကြောင်း)

ဖော်ပြပါ اِسْمٌ နှင့် فِعْلٌ တို့၏ အမှတ်သင်္ကေတများ မပါရှိခြင်းသည် حَرْفٌ ဖြစ်ခြင်း၏ အမှတ်သင်္ကေတပင်ဖြစ်သည်။

## اِسْمٌ ၏အမျိုးအစားများအကြောင်း

اِسْمٌ အမျိုးအစား (၃) မျိုးရှိပါသည်။ ၎င်းတို့မှာ– (၁) جَامِدٌ (၂) مَصْدَرٌ (၃) مُشْتَقٌّ

(၁) جَامِدٌ ဆိုသည်မှာ မည်သည့်စာလုံးကမှ ဆင့်ပွားပြောင်းလဲလာခြင်းမဟုတ်သကဲ့သို့ ၎င်းထံမှလည်း မည်သည့်စာလုံးမျှ ဆင့်ပွားခွဲထွက်ခြင်းမရှိသော စာလုံးကို ခေါ်ဆိုသည်။ ဥပမာ– رَجُلٌ، فَرَسٌ

(၂) مَصْدَرٌ ဆိုသည်မှာ မည်သည့်စာလုံးကမှ ဆင့်ပွားပြောင်းလဲလာခြင်းမဟုတ်သော်လည်း ၎င်းမှ အခြားသော စာလုံးများ ဆင့်ပွားခွဲထွက်သည့် စာလုံးကို ခေါ်ဆိုပေသည်။ ဥပမာ– نَصْرٌ، ضَرْبٌ

(၃) مُشْتَقٌّ ဆိုသည်မှာ مَصْدَرٌ မှ ဆင့်ပွားပြောင်းလဲလာသော စာလုံးကို ခေါ်ဆိုသည်။ ၎င်းမှာ (၅) မျိုးရှိပေသည်။

(၁) اِسْمُ الفَاعِلِ- عَالِمٌ (၂) اِسْمُ المَفْعُوْلِ - مَفْتُوْحٌ (၃) اِسْمُ الْآلَةِ - مِفْتَاحٌ

أَكْبَرُ – اِسْمُ التَّفْضِيْلِ (၅) مَسْجِدٌ – الظرف (اِسْمُ الزَّمَانِ وَالْمَكَانِ) (၄)

# သင်ခန်းစာ (၂)

## مُرَكَّبٌ အကြောင်း

مُرَكَّبٌ ဆိုသည်မှာ كلمة (၂) လုံး (သို့) နှစ်လုံးထက်ပို၍ ပေါင်းစပ်ထားသော "ဝါကျ" ကို ခေါ်သည်။ ၎င်းမှာ (၂) မျိုးရှိသည်။ (၁) مُرَكَّبٌ تَامٌّ (၂) مُرَكَّبٌ نَاقِصٌ

(၁) مُرَكَّبٌ تَامٌّ ဆိုသည်မှာ စကားရပ်တစ်ခုကို ကြားရသောအခါ တစ်စုံတစ်ရာ၏ အကြောင်း (သို့) တစ်စုံတစ်ခု၏ တောင်းခံမှု တစ်ခုခုကို သိရှိရသော "ဝါကျ"ကို ခေါ်သည်။ ဥပမာ– زَيْدٌ حَاضِرٌ (ဇိုက်ဒ် အသင့်ရှိနေသည်။) إِيْتِ بِالْمَاءِ (အသင် ရေယူလာပါ။)

ပထမ "ဝါကျ" တွင် ဇိုက်ဒ် အသင့်ရှိနေကြောင်းကို သိရှိရပြီး ဒုတိယ "ဝါကျ"တွင်မူ ရေ တောင်းဆိုနေကြောင်းအားသိရှိရလေသည်။ ၎င်းမُرَكَّبٌ تَامٌّ ကို كَلَامٌ (သို့) جُمْلَةٌ ဟု၍လည်း ခေါ်ဆိုသည်။

مُرَكَّبٌ نَاقِصٌ ဆိုသည်မှာ စကားရပ်တစ်ခုကို ကြားသိရသော အခါ တစုံတရာ၏ အကြောင်း (သို့) တစုံတရာ၏ တောင်းခံမှုကို မသိရှိရသော "ဝါကျ" ကိုခေါ်သည်။ ဥပမာ- قَلَمُ زَيْدٍ (ဇိုက်ဒ်၏ ကလောင်တံ) قَلَمٌ جَمِيْلٌ (လှပသော ကလောင်)

## جُمْلَةٌ အကြောင်း

جُمْلَةٌ သည် (၂) မျိုးရှိသည်။ (၁) جُمْلَةٌ خَبَرِيَّةٌ (၂) جُمْلَةٌ إِنْشَائِيَّةٌ

(၁) جُمْلَةٌ خَبَرِيَّةٌ ဆိုသည်မှာ ပြောဆိုသူ၏ စကားသည် မှန်ကန်ခြင်းရှိမရှိအား ခွဲခြားနိုင်သည့် "ဝါကျ"ကို ခေါ်ဆိုသည်။ (သို့) သတင်းပေးမှု တစ်ခုခုပါဝင်နေသော ဝါကျကို جُمْلَةٌ خَبَرِيَّةٌ ဟုခေါ်သည်။

جُمْلَةٌ خَبَرِيَّةٌ (၂) မျိုးရှိသည်။ (၁) جُمْلَةٌ اِسْمِيَّةٌ (၂) جُمْلَةٌ فِعْلِيَّةٌ

(၁) جُمْلَةٌ اِسْمِيَّةٌ ဆိုသည်မှာ اسم နှင့် အစပြုသော "ဝါကျ" ကို ခေါ်ဆိုသည်။ ဥပမာ- زَيْدٌ عَالِمٌ

(၂) جُمْلَةٌ فِعْلِيَّةٌ ဆိုသည်မှာ فِعْلٌ နှင့် အစပြုသော "ဝါကျ"ကို ခေါ်ဆိုသည်။ ဥပမာ - جَلَسَ زَيْدٌ

جُمْلَةٌ إِنْشَائِيَّةٌ ဆိုသည်မှာ ပြောဆိုသူ၏ စကားသည် မှန်ကန်ခြင်းရှိမရှိအား ခွဲခြား၍မရသော "ဝါကျ"ကို ခေါ်ဆိုသည်။ (သို့) တောင်းဆိုမှု တစ်ခုခုပါရှိသော "ဝါကျ" ကို ခေါ်ဆိုသည်။ ၎င်းသည် (၃) မျိုးရှိသည်။ (၁) أَمْرٌ အမိန့်ပေးခြင်း (သို့) တောင်းဆိုခြင်း။ ဥပမာ– اِذْهَبْ إِلَى الْمَدْرَسَةِ

(၂) نَهْيٌ တားမြစ်ခြင်း။ ဥပမာ– لَا تَذْهَبْ إِلَى الْبَيْتِ

(၃) اِسْتِفْهَامٌ မေးမြန်းခြင်း။ ဥပမာ– هَلْ تَذْهَبْ إِلَى الْسُوْقِ

## مُرَكَّبٌ نَاقِصٌ အကြောင်း

مُرَكَّبٌ نَاقِصٌ ဆိုသည်မှာ စကားရပ်တစ်ခုကို ကြားသိရသောအခါ တစုံတရာ၏ အကြောင်း (သို့) တစုံတရာ၏ တောင်းခံမှုကို မသိရှိရသော "ဝါကျ" ကိုခေါ်သည်။ ဥပမာ– قَلَمُ زَيْدٍ (ဇိုက်ဒ်၏ ကလောင်တံ) قَلَمٌ جَمِيْلٌ (လှပသော ကလောင်) ၎င်းသည် (၂) မျိုးရှိပေသည်။

(၁) مُرَكَّبٌ إِضَافِيٌّ (၂) مُرَكَّبٌ تَوْصِيْفِيٌّ

(၁) مُرَكَّبٌ إِضَافِيٌّ ဆိုသည်မှာ ပိုင်ဆိုင်ခြင်းပြ စကားစုကို ခေါ် ဆိုသည်။ ၎င်း၏ ပထမအစိတ်အပိုင်းကို مُضَافٌ (ပိုင်ဆိုင်ခံ) ဟုခေါ်ပြီး ဒုတိယအစိတ်အပိုင်းကို مُضَافٌ إِلَيْهِ (ပိုင်ဆိုင်သူ) ဟုခေါ်သည်။

## ကျက်မှတ်ရန်

مُضَافٌ တွင် ال နှင့် تَنْوِيْنٌ ဝင်ရောက်မည်မဟုတ်ပေ။

مُضَافٌ إِلَيْهِ သည် အမြဲ مَجْرُوْرٌ ဖြစ်မည်။

(၂) مُرَكَّبٌ تَوْصِيْفِيٌّ ဆိုသည်မှာ اسم တစ်ခုခုကို (နာမဝိသေသန) တစ်ခုခုဖြင့် အထူးပြုထားသော စကားစုအား مُرَكَّبٌ تَوْصِيْفِيٌّ ဟုခေါ်သည်။ ဥပမာ– رَجُلٌ جَمِيْلٌ

## ကျက်မှတ်ရန်

مُرَكَّبٌ تَوْصِيْفِيٌّ တွင်

(က) إِعْرَابٌ ကိုက်ညီရမည်။

ဥပမာ– رَجُلٌ جَمِيْلٌ ، رَجُلًا جَمِيْلًا ، إِلَى رَجُلٍ جَمِيْلٍ

(ခ) مَعْرِفَةٌ နှင့် نَكِرَةٌ ဖြစ်ခြင်းတွင် ကိုက်ညီရမည်။ ဥပမာ–
رَجُلٌ جَمِيْلٌ ، الرَّجُلُ الْجَمِيْلُ

(ဂ) مَذَكَّرٌ နှင့် مَؤَنَّثٌ ဖြစ်ခြင်းတွင် ကိုက်ညီရမည်။ ဥပမာ–
رَجُلٌ جَمِيْلٌ ، إِمْرَةٌ جَمِيْلَةٌ

(ဃ) جَمْعٌ،تَثْنِيَّةٌ، وَاحِدٌ ဖြစ်ခြင်းတွင် ကိုက်ညီရမည်။ ဥပမာ–
طَالِبٌ مُجْتَهِدٌ، طَالِبَانِ مُجْتَهِدَانِ، طُلَّابٌ مُجْتَهِدُوْنَ

## သင်ခန်းစာ (၃)

အရေအတွက် ထောက်ရှုခြင်းဖြင့် اسم ၏အမျိုးအစား (၃) မျိုးရှိသည်။

(၁) وَاحِدٌ (၂) تَثْنِيَّةٌ (၃) جَمْعٌ

(၁) وَاحِدٌ ဆိုသည်မှာ အရေအတွက် (၁) ခုကို ပြသော اسم ကိုခေါ်ဆိုသည်။ ဥပမာ– رَجُلٌ (အမျိုးသားတစ်ဦး)

(၂) تَثْنِيَّةٌ ဆိုသည်မှာ အရေအတွက်(၂) ခုကိုပြသော اسم ကို ခေါ်ဆိုသည်။ ဥပမာ– رَجُلَانِ (အမျိုးသားနှစ်ဦး)

(၃) جَمْعٌ ဆိုသည်မှာ နှစ်ခုထက်ပိုသော အရေအတွက်ကို ပြသည့် اسم ကို ခေါ်ဆိုသည်။ ဥပမာ– رِجَالٌ (အမျိုးသားများ)

### تَثْنِيَّةٌ ပြုလုပ်နည်း

(၁) وَاحِدٌ ကိန်း၏ အဆုံးတွင် أَلِفٌ နှင့် نُوْنٌ (သို့) يَاءٌ နှင့် نُوْنٌ တိုးပေးရမည်။ ဥပမာ– رَجُلٌ မှ رَجُلَانِ

## جَمْعٌ အကြောင်း

جَمْعٌ (၂) မျိုးရှိသည်။ (၁) جَمْعٌ مُكَسَّرٌ (၂) جَمْعٌ سَالِمٌ

(၁) جَمْعٌ مُكَسَّرٌ ဆိုသည်မှာ وَاحِدٌ ပုံစံကျိုးပြတ်၍ ပြုလုပ်ခြင်း ခံထားရသော جَمْعٌ ကို ခေါ်ဆိုပါသည်။

ဥပမာ- رِجَالٌ မှ رَجُلٌ -

(၂) جَمْعٌ سَالِمٌ ဆိုသည်မှာ وَاحِدٌ ပုံစံကျိုးပြတ်ခြင်းမရှိသည့် ပုံစံဖြင့် ပြုလုပ်ထားသော جَمْعٌ ကို ခေါ်ဆိုပါသည်။ ဥပမာ- مُسْلِمٌ မှ مُسْلِمُوْنَ ၊ مُسْلِمَةٌ မှ مُسْلِمَاتٌ

جَمْعٌ سَالِمٌ သည် (၂) မျိုးရှိသည်။

(၁) جَمْعُ الْمُذَكَّرِ السَّالِمُ (၂) جَمْعُ الْمُؤَنَّثِ السَّالِمُ

(၁) جَمْعُ الْمُذَكَّرِ السَّالِمُ ဆိုသည်မှာ وَاوٌ နှင့် نُوْنٌ (သို့) يَاءٌ နှင့် نُوْنٌ အပိုထည့်၍ ပြုလုပ်ရသော جَمْعٌ ကို ခေါ်ဆိုပါသည်။ ဥပမာ- مُسْلِمٌ မှ مُسْلِمُوْنَ، مُسْلِمِيْنَ

(၂) تَاءُ مَبْسُوْطَةٌ ဆိုသည်မှာ أَلِفٌ နှင့် جَمْعُ الْمُؤَنَّثِ السَّالِمُ အပို ထည့်၍ ပြုလုပ်ရသော جَمْعٌ ကို ခေါ်ဆိုပါသည်။ ဥပမာ-

مُسْلِمَاتٌ မှ مُسْلِمَةٌ

# သင်ခန်းစာ (၄)

ဖို/မ သဘာဝကို အခြေခံ၍ اسم နှစ်မျိုးရှိသည်။ (၁) مُذَكَّرٌ (၂) مُؤَنَّثٌ

(၁) مُذَكَّرٌ ဆိုသည်မှာ ယောကျ်ားသဘာဝ၊ ဖိုသဘာဝရှိသော اسم ကို ခေါ်ဆိုပါသည်။ ဥပမာ– رَجُلٌ، كِتَابٌ

(၂) مُؤَنَّثٌ ဆိုသည်မှာ မိန်းမသဘာဝ၊ "မ" သဘာဝရှိသော اسم ကို ခေါ်ဆိုပါသည်။ ဥပမာ– إِمْرَةٌ، شَجَرَةٌ

مُؤَنَّثٌ အမျိုးအစားနှစ်မျိုးရှိသည်။ (၁) مُؤَنَّثٌ قِيَاسِيَّةٌ (၂) مُؤَنَّثٌ سِمَاعِيَّةٌ

(၁) مُؤَنَّثٌ قِيَاسِيَّةٌ ဆိုသည်မှာ သင်္ကေတ (သို့) အမှတ်အသားဖြင့် مُؤَنَّثٌ ဖြစ်ကြောင်းကို ဖော်ပြသော اسم ကို مُؤَنَّثٌ قِيَاسِيَّةٌ ဟုခေါ်ဆိုသည်။

(၂) مُؤَنَّثٌ سِمَاعِيَّةٌ ဆိုသသည်မှာ အရဗီစကားပြောဆိုသူ၏ အပြောအဆို အသုံးအနှုန်းအပေါ် အခြေခံ၍ သိရှိရသော مُؤَنَّثٌ ကိုခေါ်ဆိုပါသည်။ ဥပမာ– أَرْضٌ، نَارٌ

(၁) مُؤَنَّثٌ قِيَاسِيَّةٌ သည်နှစ်မျိုးရှိသည်။ (၁) مُؤَنَّثٌ لَفْظِيَّةٌ (၂) مُؤَنَّثٌ مَعْنَوِيَّةٌ

(၁) مُؤَنَّثٌ لَفْظِيَّةٌ ဆိုသည်မှာ သင်္ကေတအရ مُؤَنَّثٌ ဖြစ်သော اسم ကိုခေါ်ဆိုပါသည်။ مؤَنَّثٌ لَفْظِيَّةٌ ၏ သင်္ကေတများမှာ (၃) ခုရှိပါသည်။

(၁) تَاءٌ مَرْبُوْطَةٌ ပါရှိခြင်း။ ဥပမာ– طَلْحَةٌ، قَلَنْسُوَةٌ

(၂) أَلِفٌ مَقْصُوْرَةٌ ပါရှိခြင်း။ ဥပမာ– كُبْرَى، صُغْرَى

(၃) أَلِفٌ مَمْدُوْدَةٌ ပါရှိခြင်း။ ဥပမာ– حَمْرَاءُ، بَيْضَاءُ

(၂) مُؤَنَّثٌ مَعْنَوِيَّةٌ ဆိုသည်မှာ အဓိပ္ပာယ်အရ مُؤَنَّثٌ ဖြစ်သော اسم ကိုခေါ်ဆိုပါသည်။ ၎င်း၏ အမျိုးအစား (၄) မျိုးရှိပါသည်။

(က) အမျိုးသမီးများ၏ အမည်များ။ ဥပမာ– عَائِشَةُ، حَفْصَةُ

(ခ) အမျိုးသမီးအတွက် သီးသန့်သတ်မှတ်ထားသော အမည်များ။ ဥပမာ– بِنْتٌ، أُخْتٌ، أُمٌّ

(ဂ) မြို့၊ ရွာ၊ မျိုးနွယ်စုတို့၏ အမည်များ။ ဥပမာ– يَانْغُوْنُ، قُرَيْشٌ

(ဃ) ခန္ဓာကိုယ်၌ စုံရှိသော အစိတ်အပိုင်းများ။ ဥပမာ– عَيْنٌ رِجْلٌ، يَدٌ

မှတ်ချက်။ ။ خَدٌّ، حَاجِبٌ، مِرْفَقٌ တို့သည် مُذَكَّرٌ များဖြစ်သည်။

## သင်ခန်းစာ (၅)

### مَعْرِفَةٌ နှင့် نَكِرَةٌ အကြောင်း

مَعْرِفَةٌ ဆိုသည်မှာ သတ်မှတ်ခြင်းခံရသည့်အရာအပေါ်၌သာ ညွှန်ပြသော اسم ကိုခေါ်ဆိုပါသည်။ ၎င်းသည် (၇) မျိုးရှိသည်။

(၁) الضَمَائِرُ နာမ်စားများ။ ဥပမာ– هُوَ،أَنَا،أَنْتَ

(၂) တစ်ဦးဆိုင်နာမ်များ။ ဥပမာ– زَيْدٌ، عَمْرٌو

(၃) أَسْمَاءُ الْإِشَارَةِ အညွှန်းနာမ်စားများ။ ဥပမာ– هَذَا، ذلِكَ

(၄) الأَسْمَاءُ الْمَوْصُوْلَةُ ပြန်ညွှန်းနာမ်စားများ။ ဥပမာ– الَّذِيْ، الَّتِيْ

(၅) اَلِفٌ، لَاْمٌ ပါသော اسم များ။ ဥပမာ– الرجل، الكتاب

(၆) ဖော်ပြပါ (၅) မျိုးဘက်သို့ إضافة ဖြစ်သော اسم များ။ ဥပမာ– كِتَابُه، قَلَمُ زَيْدٍ، كِتَابُ هَذَا، كِتَابُ الرَّجُلِ، كِتَابُ الَّذِيْ جَاءَ

(၇) المُنَادَى ခေါ်ဆိုခံရသူ ဖြစ်ခြင်း။ ဥပမာ– يَارَجُلُ

نَكِرَةٌ ဆိုသည်မှာ အတိအကျ သတ်မှတ်ချက်မရှိသော အရာပေါ်၌ ညွှန်ပြသည့် اسم ၊ ကိုခေါ်ဆိုပါသည်။ ဥပမာ- فَرَسٌ (မြင်းတစ်ကောင်)

မှတ်ချက်။ ။ ဖော်ပြပါ معرفة အမျိုးအစား (၇) မျိုးမှအပ ကျန် اسم ၊ များအားလုံးသည် نَكِرَةٌ ဖြစ်သည်။

## သင်ခန်းစာ (၆)

နောက်ဆုံးကျွေရာပေါ်ရှိ သရ ပြောင်းလဲခြင်း မပြောင်းလဲခြင်းကို အခြေခံ၍ اسم (၂) မျိုးရှိသည်။

(၁) مُعْرَبٌ (၂) مَبْنِيٌّ

(၁) مُعْرَبٌ ဆိုသည်မှာ عَامِلٌ ကြောင့်နောက်ဆုံးအက္ခရာပေါ်ရှိ သရပြောင်းလဲသော اسم ကိုခေါ်ဆိုပါသည်။ ၎င်းကို الِاسْمُ الْمُتَمَكِّنُ ဟုလည်းခေါ်သည်။ ဥပမာ- جَاءَ زَيْدٌ، وَرَأَيْتُ زَيْدًا، وَمَرَرْتُ بِزَيْدٍ

(၂) مَبْنِيٌّ ဆိုသည်မှာ عَامِلٌ ကြောင့်နောက်ဆုံးအက္ခရာပေါ်ရှိ သရမပြောင်းလဲသော اسم ကိုခေါ်ဆိုပါသည်။ ၎င်းကို الِاسْمُ غَيْرُ الْمُتَمَكِّنِ ဟုလည်းခေါ်သည်။

ဥပမာ- جَاءَ هَؤُلَاءِ، رَأَيْتُ هَؤُلَاءِ، مَرَرْتُ بِهَؤُلَاءِ

عَامِلٌ ဆိုသည်မှာ كَلِمَةٌ ၏ နောက်ဆုံးအက္ခရာပေါ်၌ရှိသော သရကို ပြောင်းလဲစေသည့်အရာအား ခေါ်ဆိုပါသည်။

اَلإِعْرَابُ ဆိုသည်မှာ كَلِمَةٌ ၏ နောက်ဆုံးကွေ့ရာပေါ်၌ရှိသော သရကို ခေါ်ဆိုပါသည်။ ထို့နောက် كَلِمَةٌ ၏ နောက်ဆုံး အက္ခရာကို مَحَلُّ الْإِعْرَابِ ဟုခေါ်ဆိုပါသည်။

ဥပမာ– جَاءَ زَيْدٌ

زَيْدٌ ၌ပါရှိသော مَحَلُّ သည် دال သည ضَمَّتَانِ သည် اَلإِعْرَابُ ဖြစ်၍ الْإِعْرَابِ ဖြစ်သည်။ ထို့နောက် جَاءَ သည် عَامِلٌ ဖြစ်သည်။

اَلإِعْرَابُ သည် (၄) မျိုးရှိသည်။ ၎င်းတို့မှာ (၁) رَفْعٌ (၂) نَصْبٌ (၃) جَرٌّ (၄) جَزْمٌ တို့ဖြစ်သည်။

رَفْعٌ (ـُ ـٌ) ရှိသော اسم ကို مَرْفُوْعٌ ဟုခေါ်သည်။ نَصْبٌ ( ـَ ـً ) ရှိသော اسم ကို مَنْصُوْبٌ ဟုခေါ်သည်။ جَرٌّ ( ـِ ـٍ ) ပါသော اسم ကို مَجْرُوْرٌ ဟုခေါ်သည်။ جَزْمٌ ( ـْ ) ပါရှိသော စာလုံးကို مَجْزُوْمٌ ဟုခေါ်သည်။

## သင်ခန်းစာ (၇)

مَبْنِيٌّ အမျိုးအစား (၈) မျိုးရှိပါသည်။

(၁) الضَمَائِرُ

(၂) أَسْمَاءُ الْإِشَارَةِ

(၃) الأَسْمَاءُ الْمَوْصُوْلَةُ

(၄) أَسْمَاءُ الْأَفْعَالِ

(၅) أَسْمَاءُ الْأَصْوَاتِ

(၆) أَسْمَاءُ الظُّرُوْفِ

(၇) أَسْمَاءُ الْكِنَايَاتِ

(၈) الْمُرَكَّبُ الْبِنَائِيُّ

**الضَمَائِرُ အကြောင်း**

ضَمِيْرٌ ဆိုသည်မှာ غَائِبٌ (အကွယ်၌ရှိသူ)၊ مُخَاطَبٌ (ကြားနာသူ)၊ مُتَكَلِّمٌ (ပြောဆိုသူ) တို့အပေါ် ညွှန်ပြရန်အတွက် အသုံး

ပြုသော နာမ်စားများကို ခေါ်ဆိုသည်။ ၎င်းမှာ (၅) မျိုးရှိသည်။

(၁) مَرْفُوْعٌ مُتَّصِلٌ (၂) مَرْفُوْعٌ مُنْفَصِلٌ (၃) مَنْصُوْبٌ مُتَّصِلٌ (၄) مَجْرُوْرٌ مُتَّصِلٌ (၅) مَنْصُوْبٌ مُنْفَصِلٌ

မှတ်ချက်။ ။ مَجْرُوْرٌ مُنْفَصِلٌ အတွက်မည်သည့် ضَمِيْرٌ မှ မရှိပါ။

## (၁) مَرْفُوْعٌ مُتَّصِلٌ

مَرْفُوْعٌ مُتَّصِلٌ ဆိုသည်မှာ فَاعِلٌ ဖြစ်၍ فِعْلٌ နှင့် တွဲနေသော ضَمِيْرٌ များကိုခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၁၄) လုံးရှိပါသည်။

| | |
|---|---|
| ضَرَبَ | "هُوَ" ဖုံးကွယ်နေခြင်း။ |
| ضَرَبَا | تَثْنِيَّةٌ ၏ أَلِفٌ တည်ရှိနေခြင်း။ |
| ضَرَبُوْا | وَاوُ الْجَمْعِ တည်ရှိနေခြင်း။ |
| ضَرَبَتْ | "هِيَ"ဖုံးကွယ်နေခြင်း။ |
| ضَرَبَتَا | تَثْنِيَّةٌ ၏ أَلِفٌ တည်ရှိနေခြင်း။ |

| | |
|---|---|
| ضَرَبْنَ | جَمْعُ الْمُؤَنَّثِ ၏ نُوْنٌ တည်ရှိနေခြင်း။ |
| ضَرَبْتَ | تَاءٌ مَفْتُوْحَةٌ တည်ရှိနေခြင်း။ |
| ضَرَبْتُمَا | تُمَا တည်ရှိနေခြင်း။ |
| ضَرَبْتُمْ | تُمْ တည်ရှိနေခြင်း။ |
| ضَرَبْتِ | تَاءٌ مَكْسُوْرَةٌ တည်ရှိနေခြင်း။ |
| ضَرَبْتُمَا | تُمَا တည်ရှိနေခြင်း။ |
| ضَرَبْتُنَّ | تُنَّ တည်ရှိနေခြင်း။ |
| ضَرَبْتُ | تَاءٌ مَضْمُوْمَةٌ တည်ရှိနေခြင်း။ |
| ضَرَبْنَا | نَا တည်ရှိနေခြင်း။ |

## مَرْفُوْعٌ مُنْفَصِلٌ အကြောင်း

مَرْفُوْعٌ مُتَّصِلٌ ဆိုသည်မှာ فَاعِلٌ (သို့) مبتدأ ဖြစ်၍ فِعْلٌ နှင့်ခွဲ လျက်လာရှိသော ضَمِيْرٌ များကိုခေါ်ဆိုသည်။ ၎င်းတို့မှာ (၁၄) လုံးရှိသည်။

| | |
|---|---|
| هُوَ | ထိုသူ (၁) ဦး |

| | |
|---|---|
| هُمَا | ထိုသူ (၂) ဦး |
| هُمْ | ထိုသူများ |
| هِيَ | ထိုသူမ (၁) ဦး |
| هُمَا | ထိုသူမ (၂) ဦး |
| هُنَّ | ထိုသူမများ |
| أَنْتَ | အသင် (၁) ဦး |
| أَنْتُمَا | အသင် (၂) ဦး |
| أَنْتُمْ | အသင်တို့ |
| أَنْتِ | အသင်မ (၁) ဦး |
| أَنْتُمَا | အသင်မ (၂) ဦး |
| أَنْتُنَّ | အသင်မတို့ |
| أَنَا | ကျွန်တော် (သို့) ကျွန်မ (၁) ဦး |
| نَحْنُ | ကျွန်တော်/မ (၂) ဦး၊ (သို့)<br>ကျွန်တော်/ကျွန်မတို့ |

## مَنْصُوْبٌ مُتَّصِلٌ အကြောင်း

مَنْصُوْبٌ مُتَّصِلٌ ဆိုသည်မှာ مَفْعُوْلٌ بِهِ ဖြစ်၍ فِعْلٌ နှင့် ပူးတွဲလျက် လာရှိသော ضَمِيْرٌ များကို ခေါ်ဆိုသည်။ ၎င်းတို့မှာ (၁၄) လုံး ရှိသည်။

ضَرَبَهُ، ضَرَبَهُمَا، ضَرَبَهُمْ، ضَرَبَهَا، ضَرَبَهُمَا، ضَرَبَهُنَّ، ضَرَبَكَ، ضَرَبَكُمَا، ضَرَبَكُمْ، ضَرَبَكِ، ضَرَبَكُمَا، ضَرَبَكُنَّ، ضَرَبَنِيْ، ضَرَبَنَا.

## مَنْصُوْبٌ مُنْفَصِلٌ အကြောင်း

عَامِلٌ ဆိုသည်မှာ مَفْعُوْلٌ بِهِ (သို့မဟုတ်) အခြား مَنْصُوْبٌ مُنْفَصِلٌ တစ်ခုခုကြောင့် مَنْصُوْبٌ ဖြစ်၍ فِعْلٌ နှင့် ခွဲလျက် လာရှိသော ضَمِيْرٌ များကို ခေါ်ဆိုသည်။ ၎င်းတို့မှာ-

إِيَّاهُ، إِيَّاهُمَا، إِيَّاهُمْ، إِيَّاهَا، إِيَّاهُمَا، إِيَّاهُنَّ، إِيَّاكَ، إِيَّاكُمَا، إِيَّاكُمْ، إِيَّاكِ، إِيَّاكُمَا، إِيَّاكُنَّ، إِيَّايَ، إِيَّانَا.

## مَجْرُوْرٌ مُتَّصِلٌ အကြောင်း

مَجْرُوْرٌ مُتَّصِلٌ ဆိုသည်မှာ حَرْفُ الْجَرِّ (၏) နောက်တွင်သော် လည်းကောင်း၊ اسم တစ်ခုခု၏ နောက်တွင် مُضَافٌ إِلَيْهِ အဖြစ် နှင့်သော်လည်းကောင်း လာရှိသော ضَمِيْرٌ များကိုခေါ်ဆို သည်။

حَرْفُ الْجَرِّ ၏ နောက်တွင်လာရှိသော ပုံစံ။

لَهُ، لَهُمَا، لَهُمْ، لَهَا، لَهُمَا، لَهُنَّ، لَكَ، لَكُمَا، لَكُمْ، لَكِ، لَكُمَا، لَكُنَّ، لِيْ، لَنَا.

اسم တစ်ခုခု၏ နောက်တွင်သော်လည်းကောင်း مُضَافٌ إِلَيْهِ အဖြစ်လာရှိသောပုံစံ။

كِتَابُهُ، كِتَابُهُمَا، كِتَابُهُمْ، كِتَابُهَا، كِتَابُهُمَا، كِتَابُهُنَّ، كِتَابُكَ، كِتَابُكُمَا، كِتَابُكُمْ، كِتَابُكِ، كِتَابُكُمَا، كِتَابُكُنَّ، كِتَابِيْ، كِتَابُنَا.

မှတ်ချက်။ ။ ကေန်စင်စစ် ضَمِيْرٌ သည် (၃) မျိုးသာရှိ သည်။

(၁) مَرْفُوْعٌ مُتَّصِلٌ – ضَرَبَ، ضَرَبَا ၏ صِيْغَةٌ (၁၄) ခု။

(၂) مُنْفَصِلٌ مَرْفُوْعٌ – هُوَ، هُمَا ၏ صِيْغَةٌ (၁၄) ခု။

(၃) ဖော်ပြပါ هُوَ، هُمَا တို့သည် فِعْلٌ နှင့် တွဲလျှင် مَنْصُوْبٌ مُتَّصِلٌ ဟုခေါ်ပြီး إِيَّا နှင့် တွဲလျှင် مَنْصُوْبٌ مُنْفَصِلٌ ဟုခေါ်သည်။ ထို့နောက် جَارٌّ (သို့မဟုတ်) اسم တစ်ခုခုနှင့် တွဲလျှင် مَجْرُوْرٌ مُتَّصِلٌ ဟုခေါ်သည်။

## أَسْمَاءُ الْإِشَارَةِ (၂)

أَسْمَاءُ الْإِشَارَةِ ဆိုသည်မှာ အရာတစ်ခုခုဘက်သို့ ညွှန်ပြရန် အတွက် သတ်မှတ်ခြင်းခံထားရသော اسم ကို ခေါ်ဆိုသည်။ أَسْمَاءُ الْإِشَارَةِ (၂) မျိုးရှိသည်။ (၁) أَسْمَاءُ الْإِشَارَةِ لِلْقَرِيْبِ အနီးညွှန်နာမ်စားများ (၂) أَسْمَاءُ الْإِشَارَةِ لِلْبَعِيْدِ အဝေးညွှန်နာမ်စားများ။

(၁) أَسْمَاءُ الْإِشَارَةِ لِلْقَرِيْبِ အနီးညွှန်နာမ်စားများ

| | **جمع** | **تثنية** | **واحد** |
|---|---|---|---|
| **مذكر** | هَؤُلَاءِ | هَذَانِ | هَذَا |
| **مؤنث** | هَؤُلَاءِ | هَتَانِ | هَذِهِ |

(၂) أَسْمَاءُ الْإِشَارَةِ لِلْبَعِيْدِ အဝေးညွှန်နာမ်စားများ။

| | جمع | تثنية | واحد |
|---|---|---|---|
| مذكر | أُوْلَئِكَ | ذَانِكَ | ذَلِكَ |
| مؤنث | أُوْلَئِكَ | تَانِكَ | تِلْكَ |

မှတ်ချက်။ اِسْمُ الْإِشَارَةِ ။ ဖြင့် ညွှန်ပြခြင်းခံရသော اسم ကို مُشَارٌ إِلَيْهِ ဟုခေါ်သည်။ ထို့နောက် اِسْمُ الْإِشَارَةِ နှင့် مُشَارٌ إِلَيْهِ နှစ်ခုလုံး၏ إِعْرَابٌ သည် တစ်မျိုးထဲဖြစ်မည်။ ဥပမာ–

هَذَا الْقَلَمُ مَكْسُوْرٌ

اسم الإشارة مشار إليه خبر

ဤဥပမာတွင် هَذَا (اِسْمُ الْإِشَارَةِ) နှင့် القَلَمُ (مُشَارٌ إِلَيْهِ) ပေါင်း၍ مُبْتَدَأٌ ဖြစ်ပြီး مَكْسُوْرٌ သည် خَبَرٌ ဖြစ်သည်။

**الأَسْمَاءُ الْمَوْصُوْلَةُ**

الأَسْمَاءُ الْمَوْصُوْلَةُ ဆိုသည်မှာ ပြန်ညွှန်းနာမ်စားများကို ခေါ်ဆိုပါသည်။ ဥပမာ– جَاءَ الَّذِيْ نَجَحَ فِيْ الْاِمْتِحَانِ

ဖော်ပြပါ ဥပမာတွင်ပါရှိသော الَّذِيْ သည် جَاءَ ထဲ၌ ရှိသော هُوَ ကို ပြန်ညွှန်းနေသည်။

| | جمع | تثنية | واحد |
|---|---|---|---|
| **مذكر** | اَلَّذِيْنَ | اَللَّذَانِ/ اَللَّذَيْنِ | اَلَّذِيْ |
| **مؤنث** | اَللَّاتِيْ | اَللَّتَانِ/اَللَّتَيْنِ | اَلَّتِيْ |

မှတ်ချက်။ ။ مَا، مَنْ، أَيُّ، أَيَّةُ တို့သည်လည်း الأَسْمَاءُ الْمَوْصُوْلَةُ များအနက်မှ ဖြစ်သည်။

# သင်ခန်းစာ (၈)

الْمُعْرَبُ ၏ အမျိုးအစား (၂) မျိုးရှိပါသည်။ (၁) الْمُنْصَرِفُ (၂) غَيْرُ الْمُنْصَرِفِ

الْمُنْصَرِفُ ဆိုသည်မှာ غَيْرُ الْمُنْصَرِفِ ဖြစ်စေသော အကြောင်းခံ မပါရှိသည့် اسم ကို ခေါ်ဆိုပါသည်။ ယင်း الْمُنْصَرِفُ အပေါ်၌ حَرَكَةٌ (၃) ခုစလုံးနှင့် تَنْوِيْنٌ ဝင်ရောက်မည် ဖြစ်သည်။

غَيْرُ الْمُنْصَرِفِ ဆိုသည်မှာ ال နှင့် تَنْوِيْنٌ ကိုလက်မခံသည့် اسم ကို ခေါ်ဆိုပါသည်။ ယင်းသည် غَيْرُ الْمُنْصَرِفِ ဖြစ်ရန် အကြောင်းခံ(၂) ခု (သို့မဟုတ်) (၂) ခုကိုယ်စားရပ်တည်ပေးသော တစ်ခုခုရှိရမည်။ ၎င်းကို اَلْمَمْنُوْعُ مِنَ الصَّرْفِ ဟူ၍လည်း ခေါ်ဆိုပါသည်။

غَيْرُ الْمُنْصَرِفِ ၏ أَعْرَابٌ မှာ حَالَةُ الرَّفْعِ တွင် ضَمَّةٌ ဖြင့်လာရှိပြီး حَالَةُ النَّصْبِ နှင့် حَالَةُ الْجَرِّ တွင် فَتْحَةٌ ဖြင့်လာရှိမည်။ جَاءَ عُمَرُ، وَرَأَيْتُ عُمَرَ، وَمَرَرْتُ بِعُمَرَ.

غَيْرُ الْمُنْصَرِفِ ဖြစ်ရန် အကြောင်းခံ (၉) ခုရှိလေသည်။

(၁) العَدْلُ (၂) الوَصْفُ (၃) التَأْنِيْثُ (၄) المَعْرِفَةُ (၅) العُجْمَةُ (၆) الجَمْعُ (၇) التَرْكِيْبُ (၈) وَزَنُ الْفِعْلِ (၉) الأَلِفُ وَالنُّوْنُ الزَّائِدَتَانِ

وَزَنُ الْمُرَكَّبِ عُجْمَةٌ تَعْرِيْفُهَا    اِعْدِلْ وَوَصْفُ الْجَمْعِ زِدْ تَأْنِيْثَا

(၁) العَدْلُ

العَدْلُ ဆိုသည်မှာ اسم တစ်ခုသည် မူရင်းပုံစံမှ အခြားပုံစံ တစ်ခုဘက်သို့ ပြောင်းလဲသွားခြင်းကို ခေါ်ဆိုပါသည်။ ဥပမာ عُمَرُ သည် عَامِرٌ မှ ပြောင်းလဲလာသည်ဟု النحو ပညာရှင်များက သတ်မှတ်ထားကြသည်။ အရဗ်တို့သည် عمر ကို غَيْرُ الْمُنْصَرِفِ ဖြစ်သည်ဟု သတ်မှတ်ထားကြသည်။

(၂) الوَصْفُ ဆိုသည်မှာ ဝိသေသကို ဖော်ညွှန်းပြသသည့် اسم ကို ခေါ်ဆိုပါသည်။ ဥပမာ-

أَسْوَدُ، أَحْسَنُ، أَحْمَرُ، أَفْضَلُ.

(၃) التَّأْنِيْثُ ဆိုသည်မှာ اسم တစ်ခု مُؤَنَّثٌ ဖြစ်ခြင်းကို ခေါ်ဆိုပါသည်။ ဥပမာ- عَائِشَةُ، حَفْصَةُ، حَمْرَاءُ

(၄) المَعْرِفَةُ ဆိုသည်မှာ တစ်ဦးဆိုင်နာမ်ဖြစ်ခြင်းကို ခေါ်ဆိုပါသည်။ ဥပမာ- زَيْنَبُ، مَكَّةُ

(၅) العُجْمَةُ ဆိုသည်မှာ အရဗီမဟုတ်သော စကားလုံးကို ခေါ်ဆိုပါသည်။ ဥပမာ- إِبْرَاهِيْمُ، يَعْقُوْبُ

(၆) الجَمْعُ ဆိုသည်မှာ جَمْعُ مَنْتَهَى الْجُمُوْعِ ဖြစ်သော جمع ကို ခေါ်ဆိုပါသည်။ ၎င်းမှာ وَزَنٌ နှစ်ခုရှိပါသည်။

(က) مَسَاجِدُ – مَفَاعِلُ

(ခ) مَفَاتِيْحُ – مَفَاعِيْلُ

(၇) التَّرْكِيْبُ ဆိုသည်မှာ كَلِمَةٌ နှစ်ခုကို إِضَافَةٌ (သို့မဟုတ်) إِسْنَادٌ ပုံစံဖြင့် မဟုတ်ဘဲ ပေါင်းစပ်ခြင်းကို ခေါ်ဆိုပါသည်။ ဥပမာ- بَعَلَبَكَّ (မြို့တစ်မြို့၏ အမည်) ယင်းဥပမာတွင် بَعَلَ နှင့် بَكَّ

စကားလုံးနှစ်လုံးကို မည်သည့် ဥပဒေမျှမပါဘဲ ပေါင်းစပ်ထားသည်။

(၈) وَزَنُ الْفِعْلِ ဆိုသည်မှာ فِعْلٌ ၏ وَزَنٌ ပေါ်၌လာရှိသော اسم ကို ခေါ်ဆိုပါသည်။ ဥပမာ- أَحْمَدُ ယင်းသည် الفِعْلُ الْمُضَارِعُ ၏ صِيْغَةُ الْمُتَكَلِّمِ ပုံစံအတိုင်းလာရှိထားခြင်းဖြစ်သည်။

(၉) الأَلِفُ وَالنُّوْنُ الزَّائِدَتَانِ ဆိုသည်မှာ اسم တစ်ခု၏ နောက်ဆုံးတွင် أَلِفٌ နှင့် نُوْنٌ အပိုရှိသော اسم ကို ခေါ်ဆိုပါသည်။ ဥပမာ- عُثْمَانُ، نُعْمَانُ

မှတ်ချက် (၁) جَمْعُ مُنْتَهَى الْجُمُوْعِ နှင့် تَأْنِيْثٌ بِالْأَلِف တို့သည် အကြောင်းခံ (၂)ခုကိုယ်စားရပ်တည်နိုင်သော سَبَبٌ များဖြစ်သည်။

မှတ်ချက်(၂) غَيْرُ الْمُنْصَرِف တွင် أل ဝင်ရောက်လျှင်သော်လည်းကောင်း၊ ယင်း غَيْرُ الْمُنْصَرِفِ သည် مُضَافٌ ဖြစ်လျှင်သော်လည်းကောင်း مُنْصَرِفٌ ဖြစ်သွားပေမည်။ ထို့ကြောင့် حَالَةُ الْجَرِّ တွင် كَسْرَةٌ ဖြင့်လာရှိပေမည်။

ذهبتُ إِلَى المَقَابِرِ، صَلَّيْتُ فِيْ مَسَاجِدِ الْبَلَدِ -[illegible]

# သင်ခန်းစာ (၉)

## اَلْمَرْفُوْعَاتُ အကြောင်း

رَفْعٌ ဖြင့်ဖတ်ရသော اسم (၈) မျိုးရှိပါသည်။

(၁) فَاعِلٌ

(၂) نَائِبُ الْفَاعِلِ

(၃) مُبْتَدَأٌ

(၄) خَبَرٌ

(၅) اِسْمُ كَانَ وَأَخَوَاتِهَا

(၆) خَبَرُ إِنَّ وَأَخَوَاتِهَا

(၇) اِسْمُ مَا وَلَا الْمُشَبَّهَتَيْنِ بِلَيْسَ

(၈) خَبَرُ لَا الَّتِيْ لِنَفْيِ الْجِنْسِ

## (၁) فَاعِلٌ အကြောင်း

فَاعِلٌ ဆိုသည်မှာ ပြုလုပ်သူကိုညွှန်းဆိုသော اسم ကို ခေါ်ဆိုပါသည်။ ဥပမာ - قَامَ زَيْدٌ

ဤဥပမာတွင် زَيْدٌ သည် فَاعِلٌ ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ယင်းသည် ရပ်ခြင်း၏ အလုပ်ကိုလုပ်ဆောင်သောကြောင့်ဖြစ်သည်။

## فَاعِلٌ ၏ ဥပဒေများ

فَاعِلٌ သည် တစ်ခါတစ်ရံ ظَاهِرٌ (ထင်ရှားသော) ပုံစံဖြင့်လာသည်။ ဥပမာ- قَامَ زَيْدٌ

တစ်ခါတစ်ရံတွင် ضَمِيْرٌ အဖြစ်နှင့် လာသည်။ ဥပမာ- زَيْدٌ قَامَ

فَاعِلٌ ဖြစ်သော ضَمِيْرٌ သည် (၂) မျိုးရှိသည်။ (က) ضَمِيْرٌ بَارِزٌ ထင်ရှားပေါ်လွင်စွာလာရှိသော ضَمِيْرٌ ။ ဥပမာ- ضَرَبْتَهُ (ခ) ضَمِيْرٌ مُسْتَتِرٌ ဖုံးကွယ်၍ လာသော ضَمِيْرٌ ။ ဥပမာ- ضَرَبَهُ

ယင်းဥပမာတွင် فَاعِلٌ သည် ضَرَبَ ၌ရှိသော هُوَ ဖြစ်သည်။

فَاعِلٌ သည် ظَاهِرٌ ဖြစ်ပါက فِعْلٌ ကို အမြဲတမ်း وَاحِدٌ ဖြင့်သာ အသုံးပြုရမည်။

ဥပမာ- ذَهَبَ الرَّجُلُ،

ذَهَبَ الرَّجُلَانِ،

ذَهَبَ الرِّجَالُ.

فَاعِلٌ သည် ضَمِيْرٌ ဖြစ်ပါက فِعْلٌ နှင့် فَاعِلٌ ကြား၌ وَاحِدٌ، تَثْنِيَّةٌ، جَمْعٌ တွင် ကိုက်ညီမှုရှိရမည်။ ဥပမာ-

اَلرَّجُلُ ذَهَبَ، اَلرَّجُلَانِ ذَهَبَا، اَلرِّجَالُ ذَهَبُوْا.

فَاعِلٌ ဖြစ်သော ضَمِيْرٌ သည် اَلْجَمْعُ الْمُكَسَّرُ ဘက်သို့ပြန်လှည့်သော နာမ်စားဖြစ်ပါက فِعْلٌ ကို صِيْغَةُ الْغَائِبِيْنَ ဖြင့်သော်လည်းကောင်း၊ صِيْغَةُ الْغَائِبَةِ ဖြင့်သော်လည်းကောင်း နှစ်မျိုးစလုံး အသုံးပြုပိုင်သည်။ ဥပမာ-

اَلرِّجَالُ ذَهَبُوْا، اَلرِّجَالُ ذَهَبَتْ.

## (၂) نَائِبُ الْفَاعِلِ အကြောင်း

نَائِبُ الْفَاعِلِ ဆိုသည်မှာ اَلْفِعْلُ الْمَجْهُوْلُ ၏ နောက်တွင် فَاعِلٌ ၏ ကိုယ်စားလာရှိသော اِسْمٌ مَرْفُوْعٌ ကို ခေါ်ဆိုပါသည်။ ၎င်းဝါကျတွင် فَاعِلٌ ကို ဖော်ပြထားခြင်းမရှိပေ။ ဥပမာ– أُكِلَ الْخُبْزُ

ဖော်ပြပါ ပမာတွင် فَاعِلٌ ကို ဖော်ပြထားခြင်းမရှိဘဲ ယင်း فَاعِلٌ ၏ နေရာ၌ نَائِبُ الْفَاعِلِ ဖြစ်သော مَفْعُوْلٌ بِهِ ကို အစားထိုးထားခြင်းသာ ဖြစ်သည်။ ၎င်းကို مَفْعُوْلُ مَالَمْ يُسَمَّ فَاعِلُهُ (ပြုလုပ်သူဖော်ပြထားခြင်းမရှိသော مَفْعُوْلٌ) ဟု၍လည်းခေါ်သည်။

* فِعْلٌ နှင့် فَاعِلٌ ကြား ဥပဒေများမှာ فعل နှင့် نَائِبُ الْفَاعِلِ ကြား ဥပဒေများကဲ့သို့ပင်ဖြစ်သည်။ ဥပမာ–

ضُرِبَ الرَّجُلُ، ضُرِبَ الرَّجُلَانِ، ضُرِبَ الرِّجَالُ، اَلرَّجُلُ ضُرِبَ ، اَلرَّجُلَانِ ضُرِبَا، اَلرِّجَالُ ضُرِبُوْا.

## (၃) مُبْتَدَأٌ အကြောင်း

جُمْلَةٌ اِسْمِيَّةٌ ၏ ပထမအစိတ်အပိုင်းကို مُبْتَدَأٌ ဟုခေါ်သည်။ ၎င်းမُبْتَدَأٌ ဖြင့် စကားကို အစပြု၍ ယင်းနှင့်ပတ်သက်သော သတင်းပေးမှုလည်း ရှိရပေမည်။

ဥပမာ– زَيْدٌ قَائِمٌ

ဖော်ပြပါ ဥပမာတွင် زَيْدٌ သည် مُبْتَدَأٌ ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ယင်းမှ စကားကို အစပြုရသော ကြောင့် ဖြစ်သည်။ ထို့နောက် ယင်းနှင့်ပတ်သက်၍ ရပ်နေကြောင်း သတင်းကိုလည်း ရရှိပေသည်။ مُبْتَدَأٌ ကို مُسْنَدٌ إِلَيْهِ ဟုလည်း ခေါ်ဆိုသည်။

## (၄) خَبَرٌ အကြောင်း

خَبَرٌ ဆိုသည်မှာ جُمْلَةٌ اِسْمِيَّةٌ ၏ ဒုတိယအစိတ်အပိုင်းဖြစ်သည်။ ယင်းخَبَرٌ ကြောင့် مُبْتَدَأٌ နှင့်ပတ်သက်၍ သတင်းစကားကို သိရှိရပေသည်။ ၎င်းကို مُسْنَدٌ ဟူ၍လည်းခေါ်သည်။

ဥပမာ–




*مُبْتَدَأٌ  သည် များသောအားဖြင့် مَعْرِفَةٌ ဖြစ်၍ خَبَرٌ သည်များသောအားဖြင့် نَكِرَةٌ ဖြစ်သည်။

*တစ်ခါတစ်ရံ خَبَرٌ သည် مُبْتَدَأٌ ထက်အလျှင်လာတတ်သည်။

ဥပမာ–



## (၅) اَلْحُرُوْفُ الْمُشَبَّهَةُ بِالْفِعْلِ အကြောင်း

فِعْلٌ နှင့်တူဆင်သော حَرْفُ များသည် (၆) လုံးရှိပါသည်။ ၎င်းတို့မှာ–

إِنَّ، أَنَّ كَأَنَّ، لَكِنَّ ، لَيْتَ، لَعَلَّ တို့ဖြစ်သည်။

၎င်း ဝိဘတ်များသည် جُمْلَةٌ اِسْمِيَّةٌ တွင် ဝင်ရောက်၍ مُبْتَدَأٌ ကို မိမိ၏ اسم အဖြစ် نَصْبٌ ပေးပြီး خَبَرٌ ကို رَفْعٌ ပေးမည်။ ဥပမာ– إِنَّ زَيْدًا قَائِمٌ

*إِنَّ، أَنَّ* သည် ဝါကျကို လေးစေရန်အတွက် အသုံးပြုသည်။

* كَأَنَّ သည် ပမာခိုင်းနှိုင်းရန်အတွက် အသုံးပြုသည်။ ဥပမာ– كَأَنَّ زَيْدًا أَسَدٌ

* لَكِنَّ သည် ပထမ ဝါကျမှ ဖြစ်ပေါ်လာသည့် ထင်ယောင်ထင်မှားကို ဖြည့်စွက်ရန်အတွက် အသုံးပြုသည်။ ဥပမာ– زَيْدٌ حَاضِرٌ لَكِنَّ بَكْرًا غَائِبٌ

* لَيْتَ သည် မဖြစ်နိုင်သောအရာကို မျှော်လင့်ရန်အတွက် အသုံးပြုသည်။ ဥပမာ- لَيْتَ الشَّبَابَ يَعُوْدَ

* لَعَلَّ သည် ဖြစ်နိုင်သောအရာကို မျှော်လင့်ရန်အတွက် အသုံးပြုသည်။ ဥပမာ- لَعَلَّ زَيْدًا حَاضِرٌ

## (၆) اَلْأَفْعَالُ النَّاقِصَةُ အကြောင်း

اَلْأَفْعَالُ النَّاقِصَةُ များသည် (၁၇) လုံးရှိသည်။ ၎င်းတို့သည် جُمْلَةٌ اِسْمِيَّةٌ တွင် ဝင်ရောက်၍ مُبْتَدَأٌ ကို မိမိ၏ اسم အဖြစ် رَفْعٌ ပေးပြီး خَبَرٌ ကို نَصْبٌ ပေးမည်။ ယင်းစကားလုံး (၁၇)လုံးမှာ-

كَانَ، صَارَ، أَصْبَحَ، أَمْسَى، أَضْحَى، ظَلَّ، بَاتَ، آضَ، عَادَ، غَدَا، رَاحَ، مَازَالَ، مَابَرِحَ، مَافَتِئَ، مَاانْفَكَّ، مَادَامَ، لَيْسَ.

ဥပမာ- كان الله عليما حكيما.

*كَانَ ، صَارَ* (ဖြစ်ခဲ့သည်။)

*أَصْبَحَ* (နံနက်ခင်းအချိန်၌ ဖြစ်ခဲ့သည်။)

*أَمْسَى (ညနေခင်းအချိန်၌ ဖြစ်ခဲ့သည်။)

*أَضْحَى (နေမြင့်ချိန်၌ ဖြစ်ခဲ့သည်။)

*ظَلَّ (နေ့အချိန်၌ ဖြစ်ခဲ့သည်။)

*بَاتَ (ညအချိန်၌ ဖြစ်ခဲ့သည်။)

*آضَ (ဖြစ်သွားခဲ့သည်။)

*عَادَ (ဖြစ်သွားခဲ့သည်။)

*غَدَا (နံနက်ခင်းချိန်၌ ဖြစ်ခဲ့သည်။)

*رَاحَ (ညနေချိန်၌ ဖြစ်ခဲ့သည်။)

*مَازَالَ ، مَابَرِحَ ، مَافَتِئَ ، مَاانْفَكَّ (အမြဲဖြစ်ခဲ့သည်။)

*مَادَامَ (......နေသရွေ့ ဖြစ်မည်။) أُكْرِمُ مَادَامَ زَيْدٌ ضَيْفًا.

*لَيْسَ (မဟုတ်ပါ။)

မှတ်ချက်။ ။ ၎င်း أَفْعَالُ نَاقِصَةٌ များမှ ဆင့်ပွားပြောင်းလဲလာသော စကားလုံးများသည်လည်း ယင်း أَفْعَالُ ကဲ့သို့ عَمَلُ လုပ်မည်။ ဥပမာ– يَكُوْنُ زَيْدٌ قَائِمٌ

## (၇) لَيْسَ နှင့်တူဆင်သော مَا နှင့် لَا တို့၏ اسم အကြောင်း

مَا နှင့် لَا တို့သည်လည်း لَيْسَ ကဲ့သို့ မိမိ၏ اسم ကို رَفْعٌ ပေး၍ خَبَرٌ ကို نَصْبٌ ပေးသည်။ ဥပမာ–

لَا رَجُلٌ أَفْضَلَ مِنْكَ، مَازَيْدٌ قَائِمًا.

## (၈) အမျိုးအစားတစ်ခုလုံးကို ငြင်းဆိုရန်အတွက် အသုံးပြုသော لا ၏ خَبَرٌ အကြောင်း

ယင်း لا သည် نَكِرَةٌ ပေါ်ဝင်၍ မိမိ၏ اسم ကို فَتْحَةٌ ပေး၍ خَبَرٌ ကို نَصْبٌ ပေးသည်။ ဥပမာ– لَا رَجُلَ قَائِمٌ

# သင်ခန်းစာ (၁၀)

## اَلْمَنْصُوْبَاتُ အကြောင်း

نَصْبٌ ဖြင့် ဖတ်ရသော اسم များ (၁၂) မျိုးရှိပါသည်။ ၎င်းတို့မှာ-

(၁) مَفْعُوْلٌ بِهِ (၂) مَفْعُوْلٌ مُطْلَقٌ (၃) مَفْعُوْلٌ لَهُ (၄) مَفْعُوْلٌ مَعَهُ (၅) مَفْعُوْلٌ فِيْهِ (၆) حَالٌ (၇) تَمْيِيْزٌ (၈) اَلْمُسْتَثْنَى (၉) اِسْمُ إِنَّ وَأَخَوَاتِهَا (၁၀) خَبَرُ كَانَ وَأَخَوَاتِهَا (၁၁) خَبَرُ مَا وَلَا الْمُشَبَّهَتَيْنِ بِلَيْسَ (၁၂) اِسْمُ لَا الَّتِيْ لِنَفْيِ الْجِنْسِ

## ၁။ مَفْعُوْلٌ بِهِ အကြောင်း

مَفْعُوْلٌ بِهِ ဆိုသည်မှာ ပြုလုပ်သူ၏ အလုပ်သတ်ရောက်ခြင်း ခံရသော اسم ကို ခေါ်ဆိုပါသည်။ ဥပမာ-

ضَرَبَ زَيْدٌ عَمْرًوا.

فِعْلٌ  فاعل  مفعول به

ဖော်ပြပါ ဥပမာတွင် عَمْرًا သည် مَفْعُوْلٌ بِهِ ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော ရိုက်ခြင်းဆိုသည့် အလုပ်သည် ၎င်းအပေါ် ကျရောက်သည့်အတွက်ကြောင့်ဖြစ်သည်။

## ၂။ مَفْعُوْلٌ مُطْلَقٌ အကြောင်း

مَفْعُوْلٌ مُطْلَقٌ ဆိုသည်မှာ فِعْلٌ ၏ နောက်တွင် ယင်း فِعْلٌ (သို့မဟုတ်) ယင်း فِعْلٌ နှင့် အဓိပ္ပာယ်တူ လာရှိသော مَصْدَرٌ ကို ခေါ်ဆိုသည်။ ဥပမာ– ضَرَبْتُ ضَرْبًا.

ဖော်ပြပါ ဥပမာတွင် ضَرْبًا သည် مَفْعُوْلٌ مُطْلَقٌ ဖြစ်သည်။

*مَفْعُوْلٌ مُطْلَقٌ သည် ရည်ရွယ်ချက် (၃) ခုအတွက်လာရှိသည်။

(၁) فِعْلٌ ကို اَلتَّأْكِيْدُ (လေးနက်)စေရန်အတွက် လာရှိသည်။ (၁) ဥပမာ– ضَرَبْتُ ضَرْبًا

(၂) فِعْلٌ ၏ အမျိုးအစားကိုဖော်ပြရန်အတွက် လာရှိသည်။ ဥပမာ– جَلَسْتُ جِلْسَةَ الْقَارِيْ

(၃) فِعْلٌ ၏ အရေအတွက်ကို ဖော်ပြရန်အတွက် လာရှိသည်။ ဥပမာ- جَلَسْتُ جَلْسَةً، جَلَسْتُ جَلْسَتَيْنِ، جَلَسْتُ جَلَسَاتٍ.

## ၃။ مَفْعُوْلٌ لَهُ အကြောင်း

مَفْعُوْلٌ لَهُ ဆိုသည်မှာ အလုပ်ဖြစ်ပေါ်ရခြင်း၏ အကြောင်းအရင်းကို ဖော်ပြသော اسم ကို ခေါ်ဆိုပါသည်။

ဥပမာ- ضَرَبْتُهُ تَأْدِيْبًا (ကျွန်တော်သည် ထိုသူကို ရိုသေသမှုရှိစေရန် အတွက်ရိုက်ခဲ့သည်။)

မှတ်ချက်။ ။ تَأْدِيْبًا သည် مَفْعُوْلٌ لَهُ ဖြစ်သည်။ ထိုစကားလုံးတွင် لام သည် ဖုံးကွယ်လျက်ရှိသည်။

ဥပမာ- ضَرَبْتُهُ لِلتَّأْدِيْبِ.

## ၄။ مَفْعُوْلٌ مَعَهُ အကြောင်း

مَفْعُوْلٌ مَعَهُ ဆိုသည်မှာ مَعَ ၏ အဓိပ္ပာယ်ပေးသော واو နောက်တွင် ကျရောက်သော اسم ကိုခေါ်ဆိုသည်။ ဥပမာ- جَاءَ زَيْدٌ وَالْكِتَابَ (ဇိုက်သည် စာအုပ်နှင့်အတူ လာခဲ့သည်။)

## ၅။ مَفْعُوْلٌ فِيْهِ အကြောင်း

مَفْعُوْلٌ فِيْه ဆိုသည်မှာ အချိန် (သို့မဟုတ်) နေရာတစ်ခုခုတွင် ပြုလုပ်သူ၏ အလုပ်ဖြစ်ပေါ်ကြောင်းကို ဖော်ပြသော اسم ကို ခေါ်ဆိုသည်။ ဥပမာ– صُمْتُ شَهْرًا، جَلَسْتُ خَلْفَهُ

مَفْعُوْلٌ فِيْهِ ကို ظَرْفٌ ဟူ၍လည်းခေါ်သည်။ ظَرْفٌ (၂) မျိုးရှိသည်။

(၁) ظَرْفُ الزَّمَانِ (၂) ظَرْفُ الْمَكَانِ

(၁) ظَرْفُ الزَّمَانِ ဆိုသည်မှာ အချိန်ကို ဖော်ညွှန်းပြသော اسم ကိုခေါ်ဆိုပါသည်။ ဥပမာ– دَهْرٌ، حِيْنٌ، يَوْمٌ، لَيْلٌ. شَهْرٌ، سَنَةٌ.

(၂) ظَرْفُ الْمَكَانِ ဆိုသည်မှာ နေရာကို ဖော်ညွှန်းပြသသော اسم ကို ခေါ်ဆိုသည်။ ဥပမာ– مَسْجِدٌ، دَارٌ، أَمَامَ، خَلْفَ.

## ၆။ حَالٌ အကြောင်း

حَالٌ ဆိုသည်မှာ فَاعِلٌ (သို့မဟုတ်) مَفْعُوْلٌ بِهِ တို့၏ အခြေအနေ/ နှစ်မျိုးစလုံး၏ အခြေအနေကို ဖော်ပြသော اسم ကိုခေါ်

ဆိုသည်။ ဥပမာ-

(حَالٌ فَاعِلٌ ၏) جَاءَ زَيْدٌ رَاكِبًا،

(حَالٌ مَفْعُوْلٌ بِهِ ၏) اِشْتَرَيْتُ دَجَّاجَةً مَذْبُوْحَةً ،

(حَالٌ مَفْعُوْلٌ بِهِ နှင့် فَاعِلٌ တို့၏) لَقِيْتُ زَيْدًا رَاكِبَيْنِ.

မှတ်ချက်။ ။ အခြေအနေကို ရှင်းပြခံသော فَاعِلٌ (သို့မဟုတ်) مَفْعُوْلٌ بِهِ ကို ذُوْ الْحَالِ ဟုခေါ်သည်။

* ذُوْ الْحَالِ သည် များသောအားဖြင့် مَعْرِفَةٌ ဖြစ်၍ الحَالُ သည် များသောအားဖြင့် نَكِرَةٌ مُفْرَدَةٌ ဖြစ်မည်။

* အကယ်၍ ذُوْ الْحَالِ သည် نَكِرَةٌ ဖြစ်ပါက الحال ကို ذُوْ الْحَالِ ထက်အလျှင်ယူလာရန် အရေးကြီးပေသည်။ ဥပမာ- لَقِيْتُ رَاكِبًا رَجُلًا.

* الحَالُ သည်တစ်ခါတစ်ရံ جُمْلَةٌ اِسْمِيَّةٌ (သို့မဟုတ်) جُمْلَةٌ فِعْلِيَّةٌ အဖြစ်နှင့် လာနိုင်သည်။ ဥပမာ- لَقِيْتُ حَامِدًا وَهُوَ جَالِسٌ، (ကျွန်ုပ်သည် ဟာမစ်ဒ်ကို ထိုင်လျှက် တွေ့ခဲ့သည်။)

جَاءَ يَحْيَى يَسْعَى (ယဟ်ယာသည် ပြေးလျက် လာခဲ့သည်။)

## ၇။ اَلتَّمْيِيْزُ အကြောင်း

تَمْيِيْزٌ ဆိုသည်မှာ မရှင်းမလင်းဖြစ်နေသောအရာ ရှင်းလင်းပေးသည့် اِسْمٌ مَنْصُوْبٌ ကို ခေါ်ဆိုသည်။ ဥပမာ-




ဤဥပမာတွင် كَوْكَبًا သည် أَحَدَ عَشَرَ ၏ မရှင်းမလင်းဖြစ်မှုကို ရှင်းလင်းပေးသည်။

*تَمْيِيْزٌ သည် عَدَدٌ (အရေအတွက်)၊ وَزَنٌ (အချိန်အတွယ်)၊ كَيْلٌ (အချင်အတွယ်)၊ مَسَاحَةٌ (အကွာအဝေး) တို့၏ မရှင်းမလင်းဖြစ်မှုကို ရှင်းလင်းပေးရန်အတွက် လာသည်။ ဥပမာ-

(က) رَأَيْتُ أَحَدَ عَشَرَ كَوْكَبًا (အရေအတွက်ကို ရှင်းပြပေးသော تَمْيِيْزٌ)

(ခ) عِنْدِيْ صَاعٌ تَمْرًا (အချိန်အတွယ်ကို ရှင်းလင်းပေးသော تَمْيِيْزٌ)

(ဂ) بِعْتُ قَفِيْزَيْنِ بُرًّا (အချင်အတွယ်ကို ရှင်းလင်းပေးသော تَمْيِيْزٌ)

(ဃ) لِيْ فَرْسَخٌ أَرْضًا (အကွာအဝေးကို ရှင်းလင်းပေးသော تَمْيِيْزٌ)

## ၈။ المُسْتَثْنَى အကြောင်း

المُسْتَثْنَى ဆိုသည်မှာ حَرْفُ الْاِسْتِثْنَاءِ (ကန့်သတ်ပေးသော အက္ခရာ) ဖြင့် ကန့်သတ်ခံရသော اسم ကိုခေါ်ဆိုပါသည်။ حَرْفُ الْاِسْتِثْنَاءِ အလျှင်ရှိသော စကားလုံးကို مُسْتَثْنَى مِنْهُ ဟု ခေါ်ဆို၍ ယင်း၏ နောက်တွင်ရှိသော စကားလုံးကို مُسْتَثْنَى ဟုခေါ်ဆိုသည်။ ဥပမာ-



حَرْفُ الْاِسْتِثْنَاءِ ဆိုသည်မှာ ကန့်သန့်ပေးသော အက္ခရာဖြစ်သည်။ حَرْفُ الْاِسْتِثْنَاءِ သည် (၉) လုံးရှိသည်။

إِلَّا، غَيْرَ، سِوَى، سِوَاءَ، حَاشَا، خَلَا، عَدَا، مَا خَلَا، مَاعَدَا တို့ဖြစ်သည်။

الْمُسْتَثْنَى (၂) မျိုးရှိသည်။

(၁) مُتَّصِلٌ (၂) مُنْفَصِلٌ

(၁) مُتَّصِلٌ ဆိုသည်မှာ مُسْتَثْنَى သည် مَسْتَثْنَى مِنْهُ ၏ အမျိုးအစားထဲ၌ ပါဝင်ခြင်းကို ခေါ်ဆိုသည်။ ဥပမာ- جَاءَنِيْ الْقَوْمُ إِلَّا زَيْدًا ဤဥပမာတွင် مُسْتَثْنَى ဖြစ်သည့် زَيْدٌ သည် مُسْتَثْنَى مِنْهُ ဖြစ်သည့် اَلْقَوْمُ ၏ အမျိုးအစားထဲတွင်ပါဝင်သည်။

(၂) مُنْفَصِلٌ ဆိုသည်မှာ مُسْتَثْنَى သည် مُسْتَثْنَى مِنْهُ ၏ အမျိုးအစားထဲ၌ မပါဝင်ခြင်းကို ခေါ်ဆိုသည်။ ဥပမာ- جَاءَنِي الْقَوْمُ إِلَّا حِمَارًا ဤဥပမာတွင် مُسْتَثْنَى ဖြစ်သည့် حِمَارًا သည် مُسْتَثْنَى مِنْهُ ဖြစ်သည့် القَوْمُ ၏ အမျိုးအစားထဲတွင် မပါဝင်ပေ။

မှတ်ချက်။ ။ المُسْتَثْنَى الْمُنْفَصِلُ ကို الْمُسْتَثْنَى الْمُنْقَطِعُ ဟုလည်းခေါ်သည်။

(၉)၊ (၁၀)၊ (၁၁)၊ (၁၂) တို့ကို اَلْمَرْفُوْعَاتُ အခန်းတွင်ဖော်ပြခဲ့ပြီးဖြစ်သည်။

## သင်ခန်းစာ (၁၁)

### اَلْمَجْرُوْرَاتُ အကြောင်း

اَلْمَجْرُوْرَاتُ ဆိုသည်မှာ جَرٌّ ဖြင့် ဖတ်ရသော اسم များကို ခေါ်ဆိုပါသည်။ اسم တစ်ခု جَرٌّ ဖြင့် ဖတ်ရခြင်း၏ အကြောင်းအရင်း နှစ်ခု ရှိပါသည်။

(က) مُضَافٌ إِلَيْهِ ဖြစ်ခြင်း။

(ခ) حَرْفُ الْجَرِّ ဝင်ရောက်ခြင်း။

مُضَافٌ إِلَيْهِ ဆိုသည်မှာ ပိုင်ဆိုင်ခြင်းအဓိပ္ပာယ်ရောက်အောင် အခြား اسم တစ်ခု၏ ဆက်သွယ်ခြင်းခံရသော اسم ကို ခေါ်ဆို ပါသည်။ ဥပမာ- قَلَمُ زَيْدٍ

* مُضَافٌ တွင် ال နှင့် تَنْوِيْنٌ မဝင်ပါ။

* مُضَافٌ إِلَيْهِ သည် အမြဲတမ်း مَجْرُوْرٌ ဖြစ်မည်။

* مُضَافٌ ၏ إِعْرَابٌ သည် ၎င်း၏ အလျှင်ရှိသော عَامِلٌ အတိုင်းလာရှိမည်ဖြစ်သည်။

ٱلْمَجْرُوْرُ بِحَرْفِ الْجَرِّ ဆိုသည်မှာ حَرْفُ الْجَرِّ  အက္ခရာများအနက်မှ တစ်လုံးလုံးဝင်ရောက်ခြင်းကြောင့်  جَرٌّ  ပေးခြင်းခံရသော اسم ကို ခေါ်ဆိုသည်။ ဥပမာ- فِيْ الْأَرْضِ

حُرُوْفُ الْجَرِّ (၁၇) လုံးရှိသည်။

باء، تاء، كاف، لام، واو، منذ، مذ، خلا، رب، حاشا، مِنْ، عدا، في، عن، على، حتى، إلى .

حُرُوْفُ الْجَرِّ ကေ္ခရာ (၁၇) လုံး၏ ဥပမာများ။

مَرَرْتُ بِالْمَسْجِدِ، تَاللهِ/وَاللهِ لَأَكِيْدَنَّ أَصْنَامَكُمْ، زَيْدٌ كَالْأَسَدِ، اَلْحَمْدُ للهِ، مَارَأَيْتُهُ مُذْ/مُنْذُ يَوْمِ الْجُمُعَةِ، رُبَّ رَجُلٍ كَرِيْمٍ لَقِيْتُهُ، جَاءَ الْقَوْمُ حَاشَا/خَلَا/عَدَا زَيْدٍ، سِرْتُ مِنَ الْهِنْدِ إِلَى الْمَدِيْنَةِ، زَيْدٌ عَلَى السَّطْحِ، صُمْتُ فِيْ رَمَضَانَ، رَمَيْتُ السَّهْمَ عَنِ الْقَوْسِ، نِمْتُ الْبَارِحَةَ حَتَّى الصَّبَاحِ.

## သင်ခန်းစာ (၁၂)

### تَوَابِعُ ခေါ်နောက်လိုက် اسم များအကြောင်း

تَوَابِعُ သည် تَابِعٌ ၏ جَمْعٌ ဖြစ်သည်။ تَابِعٌ ဆိုသည်မှာ ပထမ اسم ၏ إِعْرَابٌ အတိုင်းလာရှိသည့် စကားလုံး ကိုခေါ်ဆိုသည်။ ယင်းနောက်လိုက်ခြင်းခံရသော اسم ကို مَتْبُوْعٌ ဟုခေါ်ဆိုပါသည်။ ဥပမာ- لَقِيْتُ رَجُلًا كَرِيْمًا

ဤဥပမာ၌ كَرِيْمًا သည် ပထမ اسم ဖြစ်သော رَجُلًا ၏ إِعْرَابٌ အတိုင်းလာရှိခြင်းဖြစ်သည်။




ပထမ اسم ၏ إِعْرَابٌ အတိုင်းလာရှိမည်ဆိုသည့် ဆိုလိုရင်းမှာ ပထမ اسم သည် مَنْصُوْبٌ ဖြစ်ပါက ယင်းသည်လည်း

مَجْرُوْرٌ، مَرْفُوْعٌ مَنْصُوْبٌ ဖြစ်မည်။ ထို့နောက် ပထမ اسم သည် ဖြစ်ပါက ယင်းသည်လည်း مَرْفُوْعٌ، مَجْرُوْرٌ ဖြစ်မည်။

## تَابِعٌ (၅) မျိုးအကြောင်း

(၁) اَلنَّعْتُ (၂) اَلتَّوْكِيْدُ (၃) اَلْبَدَلُ (၄) اَلْعَطْفُ بِالْحَرْفِ (၅) عَطْفُ الْبَيَانِ

(၁) اَلنَّعْتُ ဆိုသည်မှာ اسمတစ်ခုခုအား အထူးပြုသော (နာမဝိသေသန)ကို ခေါ်ဆိုပါသည်။ (သို့) မိမိ مَتْبُوْعٌ ၏ ဝိသေသကို ဖော်ညွှန်းပြသသော تَابِعٌ ကိုခေါ်ဆိုပါသည်။ ဥပမာ– لَقِيْتُ رَجُلًا كَرِيْمًا

(၂) اَلتَّوْكِيْدُ ဆိုသည်မှာ ပထမ اسم ၏ အဓိပ္ပါယ်ကို လေးနက်စေသော تَابِعٌ ကို ခေါ်ဆိုသည်။ ဥပမာ– جَاءَ زَيْدٌ نَفْسُهُ.

اَلتَّوْكِيْدُ သည် (၂) မျိုးရှိသည်။ (၁) لَفْظِيٌّ (၂) مَعْنَوِيٌّ

(၁) اَلتَّوْكِيْدُ اللَّفْظِيُّ ဆိုသည်မှာ ပထမ စကားလုံးကိုပင် ပြန်လည်အသုံးပြု၍ လေးနက်မှုကို ဖော်ပြသည့် تَابِعٌ ကို ခေါ်ဆိုပါသည်။ ဥပမာ- جَاءَ زَيْدٌ زَيْدٌ، جَاءَ جَاءَ زَيْدٌ.

(၂) اَلتَّوكِيْدُ الْمَعْنَوِيُّ ဆိုသည်မှာ ပထမစကားလုံးနှင့် တူဆင်မှုမရှိသည့် အချို့သော စကားလုံးများဖြင့် လေးနက်မှုအား ဖော်ပြခြင်းကို ခေါ်ဆိုပါသည်။ ဥပမာ- جَاءَ زَيْدٌ نَفْسُهُ

اَلتَّوكِيْدُ الْمَعْنَوِيُّ အတွက် သီးသန့်အသုံးပြုသော စကားလုံးများမှာ-

كُلٌّ، أَجْمَعُ، كِلَا، كِلْتَا، نَفْسٌ، عَيْنٌ စသည်တို့ဖြစ်သည်။

ဥပမာ- فَسَجَدَ الْمَلَائِكَةُ كُلُّهُمْ أَجْمَعُوْنَ، جَاءَ رَجُلَانِ كِلَاهُمَا، جَاءَتْ الْمَرْأَتَانِ كِلْتَاهُمَا، جَاءَ زَيْدٌ نَفْسُهُ، عَيْنُهُ.

(၃) اَلْبَدَلُ ဆိုသည်မှာ مَتْبُوْعٌ ထက်အဓိကကျသော تَابِعٌ ကို ခေါ်ဆိုသည်။ ၎င်း مَتْبُوْعٌ ကို مُبَدَّلٌ مِنْهُ ဟုခေါ်သည်။ ဥပမာ- سُلِبَ زَيْدٌ ثَوْبُهُ တွင် ثَوْبُهُ သည် بَدَلٌ ဖြစ်သည်။




بَدَلٌ (၄) မျိုးရှိသည်။

(၁) بَدَلُ الْكُلِّ مِنَ الْكُلِّ ဥပမာ- عَدَلَ الْخَلِيْفَةُ عُمَرُ

(၂) بَدَلُ الْبَعْضِ مِنَ الْكُلِّ ဥပမာ- حَفِظْتُ الْكِتَابَ نِصْفَهُ

(၃) بَدَلُ الْاِشْتِمَالِ ဥပမာ- أَفَادَنِيْ الْمُعَلِّمُ عِلْمُهُ

(၄) بَدَلُ الْغَلَطِ ဥပမာ- جَاءَ الْأُسْتَاذُ، اَلتِّلْمِيْذُ

**(၄) اَلْعَطْفُ بِالْحَرْفِ**

اَلْعَطْفُ بِالْحَرْفِ ဆိုသည်မှာ ပထမ اسم ၏အဓိပ္ပါယ်တွင် ပါဝင်ရန် ဒုတိယ اسم အား حَرْفُ الْعَطْفِ ဖြင့် ပတ်သက်ဆက်နွယ်ပေးခြင်းကို ခေါ်ဆိုပါသည်။ ထို့နောက် ပထမ اسم ကို

مَعْطُوْفٌ عَلَيْهِ ဟုခေါ်ပြီး ဒုတိယ اسم ကို مَعْطُوْفٌ ဟုခေါ်ပါသည်။ ဥပမာ–




حَرْفُ الْعَطْفِ (၁၀) လုံးရှိပါသည်။ ၎င်းတို့မှာ– واو، فاء، ثُمَّ، حَتَّى، إِمَّا، أَوْ، أَمْ، لَا، بَلْ، لَكِنْ တို့ဖြစ်သည်။

**(၅) عَطْفُ الْبَيَانِ**

عَطْفُ الْبَيَانِ ဆိုသည်မှာ ပထမ اسم ကို ပေါ်လွင်ထင်းရှားစေသော صِفَةٌ မဟုတ်သည့် ဒုတိယ اسم ကိုခေါ်ဆိုသည်။ ဥပမာ– قَالَ أَبُوْ حَفْصٍ عُمَرُ ဤဥပမာတွင် أَبُوْ حَفْصٍ သည် عُمَرُ သခင်၏ كُنْيَةٌ ဖြစ်သည်။ သို့သော် အမည်မှာ သာပို၍ကျော်ကြားခြင်းကြောင့် عَطْفُ الْبَيَانِ အဖြစ် ယူလာခြင်းဖြစ်သည်။

## သင်ခန်းစာ (၁၃)

### اِسْمُ الْمُعْرَبِ ၏ إِعْرَابٌ များအကြောင်း

اَلْاِسْمُ الْمُعْرَبِ ၏ إِعْرَابٌ တို့သည် တစ်ခါတစ်ရံ حَرَكَةٌ အကြောင်းခံဖြင့် လာရှိပြီး တစ်ခါတစ်ရံ حُرُوْفٌ ဖြင့်လည်း လာရှိတတ်ပေသည်။ တဖန် ၎င်း إِعْرَابٌ တို့သည် တစ်ခါတစ်ရံ ကွေ့ရာ၌ထင်ရှားစွာ လာရှိပြီး တစ်ခါတစ်ရံ ဖုံးကွယ်၍ လာရှိတတ်သည်။

اَلْاِسْمُ الْمُعْرَبِ ၏ إِعْرَابٌ သည် (၉) မျိုးရှိသည်။ ယင်းတို့အနက်

(၃) မျိုး၏ إِعْرَابٌ မှာ حَرَكَةٌ ဖြင့် ပေါ်လွင်ထင်ရှားစွာ လာရှိသည်။

(၃)မျိုး၏ إِعْرَابٌ မှာ حُرُوْفٌ ဖြင့် ပေါ်လွင်ထင်ရှားစွာ လာရှိသည်။

(၃) မျိုး၏ إِعْرَابٌ မှာ ဖုံးကွယ်လျက် လာရှိသည်။

## حَرَكَةٌ ဖြင့် ပေါ်လွင်ထင်ရှားစွာ လာရှိ သော اسم ၏ အမျိုးအစားများ

(၁) ဤအမျိုးအစား၌ အမျိုးအစားကွဲ သုံးမျိုးရှိပေသည်။

(က) اَلْمُفْرَدُ الْمُنْصَرِفُ الصَّحِيْحُ (ခ) اَلْجَارِيْ مَجْرَى الصَّحِيْحِ (ဂ) اَلْجَمْعُ الْمُكَسَّرُ الْمُنْصَرِفُ

၎င်း اسم တို့၏ إِعْرَابُ များမှာ حَالَةُ الرَّفْعِ တွင် ضَمَّةٌ،ضَمَّتَانِ ဖြင့်လည်းကောင်း၊ حَالَةُ النَّصْبِ တွင် فَتْحَةٌ، فَتْحَتَانِ ဖြင့် လည်းကောင်း၊ حَالَةُ الْجَرِّ တွင် كَسْرَةٌ، كَسْرَتَانِ ဖြင့်လည်းကောင်း အသီးသီးလာရှိမည်။

(က) اَلْمُفْرَدُ الْمُنْصَرِفُ الصَّحِيْحُ ဆိုသည်မှာ စကားလုံး၏ နောက်ဆုံးတွင် حَرْفُ الْعِلَّةِ (أ،و،ي) မပါ ရှိသော اسم ကို ခေါ်ဆိုသည်။ ဥပမာ– هَذَا زَيْدٌ، وَرَأَيْتُ زَيْدًا، وَمَرَرْتُ بِزَيْدٍ

(ခ) اَلْجَارِيْ مَجْرَى الصَّحِيْحُ ဆိုသည်မှာ စကားလုံး၏အဆုံးတွင် واو (သို့) ياء ရှိ၍ ၎င်းတို့အလျှင်တွင် سكون ရှိသော اسم ခေါ် ဆိုပါသည်။ ဥပမာ– هَذَا دَلْوٌ، وَرَأَيْتُ دَلْوًا، وَمَرَرْتُ بِدَلْوٍ

(၈) اَلْجَمْعُ الْمُكَسَّرُ الْمُنْصَرِفُ ဥပမာ- هَؤُلَاءِ رِجَالٌ، وَرَأَيْتُ رِجَالًا، وَمَرَرْتُ بِرِجَالٍ

(၂) ဤအမျိုးအစား၏ إِعْرَابٌ မှာ حَالَةُ الرَّفْعِ တွင် ضَمَّةٌ ဖြင့်လည်းကောင်း၊ حَالَةُ النَّصْبِ နှင့် حَالَةُ الْجَرِّ တွင် فَتْحَةٌ ဖြင့်လည်းကောင်း အသီးသီးလာရှိသည်။ ဖော်ပြပါ إِعْرَابٌ မှာ غَيْرُ الْمُنْصَرِفِ ၏ إِعْرَابٌ ဖြစ်သည်။ ဥပမာ- هَذَا عُمَرُ، وَرَأَيْتُ عُمَرَ، وَمَرَرْتُ بِعُمَرَ

(၃) ဤအမျိုးအစား၏ إِعْرَابٌ မှာ حَالَةُ الرَّفْعِ တွင် ضمة، ضمتان ဖြင့်လည်းကောင်း၊ حَالَةُ النَّصْبِ နှင့် حَالَةُ الْجَرِّ တွင် كَسْرَةٌ ، كَسْرَتَانِ ဖြင့်လည်းကောင်းလာရှိသည်။ ဖော်ပြပါ إِعْرَابٌ မှာ جَمْعُ الْمُؤَنَّثِ السَّالِمِ ၏ إِعْرَابٌ ဖြစ်သည်။ ဥပမာ- هَذِهِ مُسْلِمَاتٌ، وَرَأَيْتُ مُسْلِمَاتٍ، وَمَرَرْتُ بِمُسْلِمَاتٍ

## حُرُوْفٌ ဖြင့် ဖော်ပြသော إِعْرَابٌ အမျိုးအစားများ

(၁) حَالَةُ الرَّفْعِ တွင် واو ဖြင့်လည်းကောင်း၊ حَالَةُ النَّصْبِ တွင် ألف ဖြင့်လည်းကောင်း၊ حَالَةُ الْجَرِّ တွင် ياء ဖြင့်လည်းကောင်း

اَلْأَسْمَاءُ السِّتَّةُ الْمُكَبَّرَةُ الْمُوَحَّدَةُ မှာ إِعْرَابٌ ယင်း လာရှိသည်။ إِعْرَابٌ الْمُضَافَةُ إِلَى غَيْرِ يَاءِ الْمُتَكَلِّمِ ၏ إِعْرَابٌ ဖြစ်သည်။ ၎င်း اسم များမှာ أَبٌ، أَخٌ، حَمٌ، هَنٌ، فَمٌ، ذُوْ ။ (၆) လုံးရှိပါသည်။

ယင်း اسم များသည် အောက်ဖော်ပြပါ စည်းကမ်းချက်များ နှင့် ကိုက်ညီမှသာ ဖော်ပြပါ إِعْرَابٌ အတိုင်းလာရှိမည် ဖြစ်သည်။

(က) ယင်း اسم များသည် مُفْرَدٌ ကိန်းများဖြစ်ရမည်။

(ခ) ယင်း اسم များသည် اِسْمُ التَّصْغِيْرِ ပြုလုပ်ခြင်းခံထားရသော اسم များမဖြစ်ရ။

(ဂ) ယင်း اسم များသည် يَاءُ الْمُتَكَلِّمِ မှအပ အခြားအရာတစ်ခုခုဘက်သို့ إِضَافَةٌ ဖြစ်ရမည်။

ဥပမာ– هَذَا أَخُوْكَ/ أَبُوْكَ/حَمُوْكَ/هَنُوْكَ/فُوْكَ/ذُوْ مَالٍ.

وَرَأَيْتُ أَبَاكَ/أَخَاكَ/حَمَاكَ/هَنَاكَ/فَاكَ/ذَامَالٍ.

وَمَرَرْتُ بِأَبِيْكَ/أَخِيْكَ/هَنِيْكَ/فِيْكَ/ذِيْ مَالٍ.

(၂) حَالَةُ الرَّفْعِ တွင် ألف ဖြင့်လည်းကောင်း၊ حَالَةُ النَّصْبِ နှင့် حَالَةُ الْجَرِّ တွင် အလျှင်တွင် فَتْحَةٌ ရှိသော ياء ဖြင့်လည်းကောင်းလာရှိသည်။ ယင်း إِعْرَابٌ မှာ تَثْنِيَّةٌ နှင့် ၎င်းအပေါင်းအပါတို့၏ إِعْرَابٌ ဖြစ်သည်။

تَثْنِيَّةٌ ၏ အပေါင်းအပါများမှာ ضَمِيْرٌ နှင့် اِثْنَانِ، اِثْنَتَانِ ဘက်သို့ إِضَافَةٌ ဖြစ်သော كِلَا، كِلْتَا တို့ဖြစ်သည်။ ဥပမာ –

جَاءَ رَجُلَانِ، وَرَأَيْتُ رَجُلَيْنِ، وَمَرَرْتُ بِرَجُلَيْنِ

جَاءَ الرَّجُلَانِ كِلَاهُمَا، وَرَأَيْتُ الرَّجُلَيْنِ كِلَيْهِمَا، وَمَرَرْتُ بِالرَّجُلَيْنِ كِلَيْهِمَا.

جَاءَتِ الْمَرْأَتَانِ كِلْتَاهُمَا، وَرَأَيْتُ الْمَرْأَتَيْنِ كِلْتَيْهِمَا، وَمَرَرْتُ بِالْمَرْأَتَيْنِ بِكِلْتَيْهِمَا.

(၃) حَالَةُ الرَّفْعِ တွင် ضَمَّةٌ အလျှင်ရှိသော واو ဖြင့်လည်းကောင်း၊ حَالَةُ النَّصْبِ နှင့် حَالَةُ الْجَرِّ တွင် كَسْرَةٌ အလျှင်ရှိသော ياء ဖြင့်လည်းကောင်း လာရှိသည်။ ယင်း إِعْرَابٌ မှာ جَمْعُ الْمُذَكَّرِ السَّالِمِ နှင့် ၎င်းအပေါင်းအပါတို့၏ إِعْرَابٌ ဖြစ်သည်။

تِسْعُوْنَ မှ عِشْرُوْنَ ထိနှင့် أُوْلُوْ جَمْعُ الْمُذَكَّرِ السَّالِم ၏အပေါင်းအပါများမှာ တို့ဖြစ်သည်။ ဥပမာ–

جَاءَ مُسْلِمُوْنَ، وَرَأَيْتُ مُسْلِمِيْنَ، وَمَرَرْتُ بِمُسْلِمِيْنَ

جَاءَ عِشْرُوْنَ رَجُلًا، وَرَأَيْتُ عِشْرِيْنَ رَجُلًا، وَمَرَرْتُ بِعِشْرِيْنَ رَجُلًا.

جَاءَ أُوْلُوْمَالٍ، وَرَأَيْتُ أُوْلِيْ مَالٍ، وَمَرَرْتُ بِأُوْلِيْ مَالٍ.

## ဖုံးကွယ်၍လာသော إِعْرَابٌ အမျိုးအစားများ

(၁) حَالَةٌ (၃) ခုစလုံးတွင် إِعْرَابٌ ဖုံးကယ်၍လာသော اسم (၁) سَدည် (၂) မျိုးရှိသည်။ ၎င်းတို့မှာ اَلْاِسْمُ الْمَقْصُوْرُ နှင့် يَاءُ الْمُتَكَلِّمِ (၂) ဘက်သို့ إِضَافَةٌ ဖြစ်သော اسم တို့ဖြစ်သည်။ ဥပမာ–

جَاءَ مُوْسَى، وَرَأَيْتُ مُوْسَى، وَمَرَرْتُ بِمُوْسَى

جَاءَ غُلَامِيْ، وَرَأَيْتُ غُلَامِيْ، وَمَرَرْتُ بِغُلَامِيْ

မှတ်ချက်။ ။ اَلْاِسْمُ الْمَقْصُوْرُ ဆိုသည်မှာ စကားလုံးတစ်ခု၏ နောက်ဆုံး၌ أَلِفٌ مَقْصُوْرَةٌ ပါရှိသော اسم ကိုခေါ်ဆိုပါသည်။ ဥပမာ– مُوْسَى، عِيْسَى

(၂) حَالَةُ الرَّفْعِ နှင့် حَالَةُ الْجَرِّ တွင် إِعْرَابٌ သည် ဖုံးကွယ်၍ သော်လည်းကောင်း၊ حَالَةُ النَّصْبِ တွင် فَتْحَةٌ ပေါ်လွင်ထင်ရှား ဖြင့်လည်းကောင်း လာရှိသည်။ ယင်း إِعْرَابٌ မှာ اَلْاِسْمُ الْمَنْقُوْصُ ၏ إِعْرَابٌ ဖြစ်သည်။ ဥပမာ- سَأَلَ الْقَاضِيْ الْمُحَامِيَ عَنِ الْجَانِيْ

မှတ်ချက်။ ။ اَلْاِسْمُ الْمَنْقُوْصُ ဆိုသည်မှာ اسم တစ်ခု၏ အဆုံး၌ يَاءٌ سَاكِنَةٌ ပါရှိပြီး ၎င်းအလျှင် كَسْرَةٌ ရှိသည့် اسم ကို ခေါ်ဆိုပါသည်။

(၃) حَالَةُ الرَّفْعِတွင် وَاوٌ ဖုံးကယ်၍သော်လည်းကောင်း၊ حَالَةُ النَّصْبِ နှင့် حَالَةُ الْجَرِّ တွင် ياء ထင်ရှားပေါ်လွင်စွာဖြင့်လည်း ကောင်းလာရှိသည်။ ယင်း إِعْرَابٌ မှာ إِضَافَةٌ يَاءُ الْمُتَكَلِّمِ ဘက်သို့ ဖြစ်သော جَمْعُ الْمُذَكَّرِ السَّالِمِ ၏ إِعْرَابٌ ဖြစ်သည်။ ဥပမာ-

هَؤُلَاءِ مُسْلِمِيَّ ، وَرَأَيْتُ مَسْلِمِيَّ، وَمَرَرْتُ بِمُسْلِمِيَّ.

၎င်း၏ ပြောင်းလဲပုံမှာ အောက်ပါအတိုင်းဖြစ်သည်။

မူရင်းမှာ يَ مُسْلِمُوْنَ ဖြစ်သည်။ ထို့နောက် إِضَافَةٌ ဖြစ်သော အခါ جمع ၏ نُوْنٌ ပြုတ်သွားပေသည်။ ထို့အခါ مُسْلِمُوْيَ ဖြစ်သွားသည်။ တဖန် واو ကို ياء ဖြင့်ပြောင်း၍ ياء နှစ်ခုကို إِدْغَامٌ (ပေါင်းစပ်) လိုက်သည့်အခါ مُسْلِمُيَّ ဖြစ်သွားသည်။ ထို့နောက် ميم တွင် ရှိသော ضَمَّةٌ ကို ياء နှင့် လိုက်လျောညီထွေမှု ရှိစေရန် كَسْرَةٌ အဖြစ်ပြောင်းပေးရမည်။ ထိုအခါ مُسْلِمِيَّ ဖြစ်သွားသည်။

## သင်ခန်းစာ (၁၄)

# ပြုလုပ်သူ သိရခြင်း မသိရခြင်းကို အခြေခံ၍ فِعْلُ သည် နှစ်မျိုးရှိသည်။

(၁) اَلْفِعْلُ الْمَعْرُوْفُ (၂) اَلْفِعْلُ الْمَجْهُوْلُ

(၁) اَلْفِعْلُ الْمَعْرُوْفُ ဆိုသည်မှာ ပြုလုပ်သူကို သိရှိရသော فِعْلٌ ကို ခေါ်ဆိုပါသည်။ ဥပမာ– أَكَلَ زَيْدٌ

(၂) اَلْفِعْلُ الْمَجْهُوْلُ ဆိုသည်မှာ ပြုလုပ်သူကို မသိရှိရသော فِعْلٌ ကိုခေါ်ဆိုပါသည်။ ဥပမာ– أُكِلَ الْخُبْزُ

اَلْفِعْلُ الْمَعْرُوْفُ သည် (၂) မျိုးရှိပြန်သည်။ (၁) اَلْفِعْلُ اللَّازِمُ (၂) اَلْفِعْلُ الْمُتَعَدِّيْ

(၁) اَلْفِعْلُ اللَّازِمُ ဆိုသည်မှာ مَفْعُوْلٌ بِهِ မလိုအပ်ဘဲ فَاعِلٌ ဖြင့်သာ ပြည့်စုံသော فِعْلٌ ကို ခေါ်ဆိုသည်။

ဥပမာ– ذَهَبَ زَيْدٌ

(၂) اَلْفِعْلُ الْمُتَعَدِّيُ ဆိုသည်မှာ فَاعِلٌ ဖြင့် မပြည့်စုံဘဲ مَفْعُوْلٌ بِهِ ကိုပါ လိုအပ်သည့် فِعْلٌ ကိုခေါ်ဆိုပါသည်။

ဥပမာ– ضَرَبَ زَيْدٌ عَمْرًوا

* اَلْفِعْلُ الْمَعْرُوْفُ သည် لَازِمٌ ဖြစ်စေ၊ مُتَعَدِّيٌ ဖြစ်စေ فَاعِلٌ ကို رَفْعٌ ပေးသည်။ ဥပမာ– قَامَ زَيْدٌ، ضَرَبَ زَيْدٌ عَمْرًوا

* اَلْفِعْلُ الْمَجْهُوْلُ သည် ပထမ نَائِبُ الْفَاعِلِ ကို رَفْعٌ ပေး၍ ဒုတိယ نَائِبُ الْفَاعِلِ ကို نَصْبٌ ပေးသည်။

## သင်ခန်းစာ (၁၅)

### اَلْأَسْمَاءُ الْعَامِلَةُ အကြောင်း

فِعْلٌ ကဲ့သို့ عَمَلٌ လုပ်သော اسم (၅) မျိုးရှိပါသည်။ (၁) مَصْدَرٌ (၂) اِسْمُ الْفَاعِلِ (၃) اِسْمُ الْمَفْعُوْلِ (၄) اَلصِّفَةُ الْمُشَبَّهَةُ (၅) اِسْمُ التَّفْضِيْلِ

(၁) مَصْدَرٌ ဆိုသည်မှာ فِعْلٌ များခွဲထွက်သည့် မူရင်း اسم ကို ခေါ်ဆိုပါသည်။ ယင်းသည် မိမိ၏ فِعْلٌ များကဲ့သို့ لَازِمٌ ဖြစ်ပါက فَاعِلٌ ကို رَفْعٌ ပေး၍ مُتَعَدِّيٌ ဖြစ်ပါက فَاعِلٌ ကို رَفْعٌ ပေးပြီး مَفْعُوْلٌ بِهِ ကို نَصْبٌ ပေးလေသည်။ သို့သော် مَصْدَرٌ ကို များသောအားဖြင့် မိမိ၏ ပထမ مَعْمُوْلٌ ဘက်သို့ إِضَافَةٌ ပြု၍ အသုံးပြုသည်။ ဥပမာ- أَعْجَبَنِيْ قِرَاءَةُ زَيْدٍ، أَعْجَبَنِيْ ضَرْبُ زَيْدٍ عَمْرًوا

(၂) اِسْمُ الْفَاعِلِ ဆိုသည်မှာ အလုပ်တစ်ခုခုသည် မိမိနှင့်အတူ ဖြစ်ပေါ်ကြောင်း ဖော်ပြသည့် مُشْتَقٌّ اِسْمٌကို ခေါ်ဆိုသည်။ ဥပမာ- ضَارِبٌ ရိုက်သောသူ။ ဤဥပမာ၌ ရိုက်ခြင်းအလုပ်

သည် ထိုပုဂ္ဂိုလ်နှင့် အတူ ရပ်တည်နေပေသည်။ သို့သော် ထိုသို့ရပ်တည်ခြင်းမျိုးသည် အမြဲတည်ရှိနေခြင်းမျိုးမဟုတ်ပေ။ ထို့နောက် ယင်းသည် လည်း မိမိ၏ فِعْلٌ ကဲ့သို့ عَمَلٌ ပြုလေသည်။ ထို့အတူ ၎င်းကို မိမိ၏ مَعْمُوْلٌ ဘက်သို့ مُضَافٌ အနေဖြင့်လည်းအသုံးပြုသည်။ ဥပမာ– زَيْدٌ قَائِمٌ أَبُوْهُ، زَيْدٌ كَامِلُ الْجُوْدِ.

**ဝါကျဖွဲ့စည်းပုံ**




جملة اسمية



(၂) اِسْمُ الْمَفْعُوْلِ ဆိုသည်မှာ အလုပ်ကျရောက်ခြင်းခံရမှုကို ဖော်ပြသော اِسْمٌ مُشْتَقٌّ ကို ခေါ်ဆိုပါသည်။ ဥပမာ- مَضْرُوْبٌ (ရိုက်ခြင်းခံရသူ) ရိုက်ခြင်းအလုပ်သည် ၎င်းအပေါ်သို့ကျနေခြင်းဖြစ်သည်။

ယင်းသည်လည်း မိမိ၏ اَلْفِعْلُ الْمَجْهُوْلُ ကဲ့သို့ نَائِبُ الْفَاعِلِ ကို رَفْعٌ ပေးလေသည်။ သို့သော် များသောအားဖြင့် မိမိ၏ مَعْمُوْلٌ ဘက်သို့ إِضَافَةٌ အဖြစ်နှင့် လာရှိသည်။ ဥပမာ-




(၃) اَلصِّفَةُ الْمُشَبَّهَةُ ဆိုသည်မှာ ဝိသေသတစ်ခုခု အမြဲတည်ရှိနေကြောင်း ဖော်ပြသော اِسْمٌ مُشْتَقٌّ ကို ခေါ်ဆိုသည်။ ဥပမာ- حَسَنٌ (လှပသောသူ) လှပခြင်း ဝိသေသသည် ယင်းပုဂ္ဂိုလ်နှင့် အမြဲ ယှဉ်တွဲနေသည်။ ယင်း

اَلْمُشَبَّهَةُ اَلصِّفَةُ သည် اَلْفِعْلُ اللَّازِمُ မှ ဖြစ်ပေါ်လာသည့် အတွက်ကြောင့် ၎င်းသည်လည်း اَلْفِعْلُ اللَّازِمُ ကဲ့သို့ မိမိ၏ فَاعِلٌ ကို رَفْعٌ ပေးသည်။

ဥပမာ- جَاءَ رَجُلٌ حَسَنٌ ثِيَابُهُ




## (၅) اِسْمُ التَّفْضِيْلِ

اِسْمُ التَّفْضِيْلِ ဆိုသည်မှာ နှိုင်းယှဉ်ရာ၌ သာပိုမှု၏ အဓိပ္ပါယ်ကိုဖော်ပြသော اسم ကို ခေါ်ဆိုပါသည်။

ဥပမာ- زَيْدٌ أَكْبَرُ مِنْ أَخِيْهِ (ဇိုက်သည် သူ့အကိုထက်သာပို၍ ကြီးသည်။) ၎င်းသည်လည်း မိမိ فِعْلٌ ကဲ့သို့ အအ်မလ် လုပ်လေသည်။ ၎င်း၏ အသုံးပြုပုံ (၃) မျိုးရှိသည်။

(၁) مِنْ တွဲ၍ အသုံးပြုပုံ။ ဥပမာ- زَيْدٌ أَكْبَرُ مِنْ أَخِيْهِ

(၂) ال နှင့် တွဲ၍ အသုံးပြုပုံ။ ဥပမာ– جَاءَ زَيْدٌ الأَفْضَلُ

(၃) إِضَافَةٌ အဖြစ်အသုံးပြုပုံ။ ဥပမာ– هُوَ أَفْضَلُ الْقَوْمِ

## သင်ခန်းစာ (၁၆)

### أَفْعَالُ الْمَدْحِ وَالذَّمِّ အကြောင်း

أَفْعَالُ الْمَدْحِ ဆိုသည်မှာ ချီးမွမ်းခြင်း အဓိပ္ပါယ်ပေးသည့် فِعْلٌ များကို ခေါ်ဆိုသည်။ ၎င်းမှာ (၂) လုံးရှိသည်။ (၁) نِعْمَ (၂) حَبَّذَا တို့ဖြစ်သည်။ ၎င်းတို့သည် မိမိ فَاعِلٌ ကို رَفْعٌ ပေးသည်။ ဥပမာ–

نِعْمَ الرَّجُلُ زَيْدٌ (ဇိုက်သည် အမျိုးသားများအနက် အကောင်းဆုံးသောသူဖြစ်သည်။)

حَبَّذَا زَيْدٌ (ဇိုက်သည် အလွန်ကောင်းမွန်သော သူဖြစ်သည်။)

အထက်ပါ ဥပမာ(၂)ခု၌ زيد သည် مَخْصُوصٌ بِالْمَدْحِ ဖြစ်သည်။

أَفْعَالُ الذَّمِّ ဆိုသည်မှာ ရှုံ့ချမှု အဓိပ္ပါယ်ပေးသော فِعْلٌ များကို ခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၂) လုံးရှိပါသည်။ (၁) بِئْسَ (၂) سَاءَ

၎င်းတို့သည်လည်း မိမိ فَاعِلٌ ကို رَفْعٌ ပေးပါသည်။ ဥပမာ–

بِئْسَ الرَّجُلُ زَيْدٌ، سَاءَ الرَّجُلُ زَيْدٌ (ဇိုက်သည် ဆိုးဝါးလှပေစွ။)

فِعْلُ التَّعَجُّبِ ဆိုသည်မှာ အံ့သြမှု အဓိပ္ပာယ်ပေးသော فِعْلٌ ကို ခေါ်ဆိုပါသည်။ ၎င်းအတွက် وَزَنٌ နှစ်ခုရှိပေသည်။ (၁) مَا أَفْعِلْ بِهِ (၂) أَفْعَلَهُ

مَا أَجْمَلَ زَيْدًا، أَجْمِلْ بِزَيْدٍ (ဇိုက် ဘယ်လောက်လှလိုက်သလဲ)

فِعْلُ التَّعَجُّبِ ကို ဖြင့် وَزَنٌ ဖော်ပြပါ اَلْفِعْلُ الثُّلَاثِيُّ တိုင်းမှ ပြုလုပ်၍ ရပေသည်။ ထို့နောက် ضَمِيْرٌ ၏ နေရာတွင် မိမိ အံ့သြမှုကို ဖော်ပြစေချင်သော စကားလုံးကို ယူဆောင်လာရပေမည်။




جملة فعلية (خبر)

## သင်ခန်းစာ (၁၇)

اَلْحُرُوْفُ النَّاصِبَةُ ဆိုသည်မှာ اَلْفِعْلُ الْمُضَارِعُ ကို نَصْبٌ ပေးသော ကေ္ခရာများကို ခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၄) လုံးရှိပါသည်။ (၁) أَنْ (၂) لَنْ (၃) كَيْ (၄) إِذَنْ

ဥပမာ– أُرِيْدُ أَنْ أَقُوْمَ ကျွန်ုပ်မတ်တတ်ရပ်ရန် ဆန္ဒရှိသည်။

لَنْ يَذْهَبَ خَالِدٌ (ခါလစ်သည် လုံးဝသွားလိမ့်မည်မဟုတ်ပါ။)

اِجْتَهَدتُّ كَيْ أَفُوْزَ فِيْ الْإِخْتِبَارِ ကျွန်ုပ်သည် စာမေးပွဲတွင် အောင်မြင်ရန်အတွက် ကြိုးစားခဲ့သည်။

أَنَا أَعْطَيْتُكَ مَالًا إِذَنْ أَشْكُرَكَ ကျွန်ုပ်သည် အသင့်ကို ပစ္စည်းပေးမည်။ ထိုအခါ အဖြေပေးသူက ဤသို့ဆိုလျှင် အသင့်ကို ကျွန်တော် ကျေးဇူးတင်မည်။

اَلْحُرُوْفُ الْجَازِمَةُ ဆိုသည်မှာ اَلْفِعْلُ الْمُضَارِعُ ကို جَزْمٌ ပေးသော အက္ခရာများကို ခေါ်ဆိုသည်။ ၎င်းတို့မှာ (၅) လုံးရှိသည်။ (၁) لَمْ (၂) لَمَّا (၃) لَامُ الْأَمْرِ (၄) لَامُ النَّهْيِ (၅) إِنْ لِلشَّرْطِ وَالْجَزَاءِ

ဥပမာ– لَمْ يَضْرِبْ ထိုသူတစ်ဦး မရိုက်ခဲ့ပါ။

لَمَّا يَضْرِبْ ထိုသူတစ်ဦး အတိတ်ကာလတစ်ခုလုံး၌ မရိုက်ခဲ့ပါ။

لِيَضْرِبْ ထိုသူတစ်ဦး ရိုက်ပါလေ။

لَا تَضْرِبْ အသင် မရိုက်လေနှင့်။

إِنْ تَضْرِبْنِيْ أَضْرِبْكَ အသင်ရိုက်လျှင် ကျွန်ုပ်လည်း ရိုက်မည်။

اَلْحُرُوْفُ الْعَاطِفَةُ ဆိုသည်မှာ كَلِمَةٌ အချင်းချင်းကိုလည်းကောင်း၊ جُمْلَةٌ အချင်းချင်းကိုလည်းကောင်း ပေါင်းဆက်ပေးသောက္ခရာများကို ခေါ်ဆိုသည်။

ဥပမာ– جَاءَ زَيْدٌ وَ عَمْرٌو ، جَاءَ زَيْدٌ وَ ذَهَبَ عَمْرٌو.

اَلْحُرُوْفُ الْعَاطِفَةُ သည် (၁၀) လုံးရှိသည်။ ၎င်းတို့သည် اَلْعَطْفُ بِالْحَرْفِ အခန်းတွင် ကျော်လွန်ခဲ့ပြီးဖြစ်သည်။

حُرُوْفُ الْإِيْجَابِ ဆိုသည်မှာ အဖြေပေးသည့် အခါ အသုံးပြုသော အက္ခရာများကို ခေါ်ဆိုသည်။ ၎င်းတို့မှာ (၆) ရှိပါ

သည်။ (၁) نَعَمْ (ဟုတ်ကဲ့) (၂) بَلَى (ဘာလို့မဟုတ်ရမှာလဲ) (၃) إِيْ (ဟုတ်ကဲ့) (၄) أَجَلْ (ဟုတ်ကဲ့) (၅) جَيْرِ (ဟုတ်ကဲ့) (၆) إِنَّ (ဟုတ်ကဲ့)

حُرُوْفُ التَّفْسِيْرِ ဆိုသည်မှာ ရှင်းပြရန်အတွက် အသုံးပြုသော စကားလုံးများကို ခေါ်ဆိုသည်။ ၎င်းတို့မှာ (၂) လုံးရှိသည်။ (၁) أَيْ (၂) أَنْ

ဥပမာ- اَلْغَضَنْفَرُ أَيْ اَلْأَسَدُ ဂဇ္ဇန်ဖရ် (ဆိုလိုသည်မှာ) ခြင်္သေ့ ဖြစ်သည်။

نَادَيْنَاهُ أَنْ يَا إِبْرَاهِيْمُ ငါအရှင်မြတ်သည် ၎င်းအား ဤသို့အသံပြု ခဲ့သည်။ "အိုး....အဗ္ဗရာဟီးမ်"

اَلْحُرُوْفُ الْمَصْدَرِيَّةُ ဆိုသည်မှာ فِعْلٌ ကိုသော်လည်းကောင်း၊ جُمْلَةٌ ကိုသော်လည်းကောင်း مَصْدَرٌ ၏ အဓိပ္ပာယ်ပြုပေးသော စကားလုံးများကို ခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၃) လုံးရှိပါ သည်။ (၁) مَا (၂) أَنْ (၃) أَنَّ

ဥပမာ- بِمَا رَحُبَتْ وَضَاقَتْ عَلَيْهِمُ الْأَرْضُ بِمَا رَحُبَتْ ဥပမာ၌ ၏ အဓိပ္ပာယ်မှာ بِرَحْبِهَا ဖြစ်သည်။ အဓိပ္ပာယ်မှာ မြေပထဝီပြင် ကြီးသည် ကျယ်ဝန်းပါလျက် ထိုသူတို့အပေါ်၌ ကျဥ်း မြောင်းသွားလေသည်။

أَعْجَبَنِيْ أَنْ تَضْرِبَ (အသင်၏ ရိုက်ခြင်းက ကျွန်ုပ်ကို အံ့အား သင့်စေခဲ့သည်။) ဤနေရာတွင် أَنْ تَضْرِبَ သည် ضَرْبُكَ ဆို သည့် مَصْدَرٌ ၏ အဓိပ္ပာယ်ဖြစ်သည်။

بَلَغَنِيْ أَنَّ زَيْدًا نَائِمٌ (ကျွန်ုပ်ထံသို့ ဇိုက် အိပ်နေသည့်ဆိုသည့် သတင်းရောက်ရှိခဲ့သည်။) ဤနေရာတွင် أَنْ زَيْدًا نَائِمٌ သည် نَوْمُ زَيْدٍ ဆိုသည့် مَصْدَرٌ ၏ အဓိပ္ပာယ်၌ ရှိသည်။

اَلْحُرُوْفُ الْاِسْتِفْهَامِيَّةُ ဆိုသည်မှာ အမေးစကားလုံးများကို ခေါ် ဆိုသည်။ ၎င်းတို့မှာ (၉) လုံးရှိသည်။

(၁) أَ ဘာလဲ။ (၂) هَلْ ဘာလဲ။ (၃) مَا ဘာလဲ။ (၄) مَنْ (၁) မည်သူနည်း။ (၅) أَيٌّ، أَيَّةٌ ဘယ်အရာလဲ။ (၆) مَتَى

ဘယ်အချိန်လဲ။ (၇) أَيَّانَ ဘယ်အချိန်လဲ။ (၈) أَنَّى ဘယ်နေရာလဲ။ (၉) أَيْنَ ဘယ်နေရာလဲ။

حُرُوْفُ التَّوْكِيْدِ ဆိုသည်မှာ စကားရပ်အားခိုင်မာတိကျစေသော စကားလုံးများကို ခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၂) မျိုးရှိသည်။ (၁) لَامُ التَّوْكِيْدِ الْمَفْتُوْحَةُ (၂) نُوْنُ التَّوْكِيْدِ الْثَقِيْلَةُ وَالْخَفِيْفَةُ

ဥပမာ لَيَضْرِبَنَّ ، لَيَضْرِبَنْ မုချ တိုသူတစ်ဦး ရိုက်လိမ့်မည်။

إِنَّ زَيْدًا لَقَائِمٌ မုချကေန် ဇိုက်သည် ရပ်နေသည်။

حُرُوْفُ التَّحضيْض وَالتَّنْدِيْمِ ဆိုသည်မှာ လှုံ့ဆော်ပေးခြင်း၊ နောင်တရခြင်း အဓိပ္ပါယ်ဆောင်သည့် စကားလုံးများကို ခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၄) လုံးရှိပါသည်။ (၁) هَلَّا (၂) أَلَّا (၃) لَوْلَا (၄) لَوْمَا

هَلَّا/ أَلَّا/ لَوْلَا/ لَوْمَا تُصَلِّيْ အသင်အဘယ့်ကြောင့် နမားဇ် မဖတ်သနည်း။

لَوْمَا صَلَّيْتَ /لَوْلَا /أَلَّا /هلَّا အသင်အဘယ့်ကြောင့် နမားဇ် မဖတ် ခဲ့သနည်း။

မှတ်ချက် ။ ။ ဖော်ပြပါ စကားလုံး (၄) လုံးသည် اَلْمَاضِيْ နှင့် اَلْمُضَارِعُ နှစ်မျိုးစလုံးတွင် ဝင်ရောက်သည်။ اَلْمُضَارِعُ တွင် ဝင်ရောက်ပါက လှုံ့ဆော်ခြင်း အဓိပ္ပာယ်ပေး၍ اَلْمَاضِيْ တွင် ဝင်ပါက နောင်တရခြင်း အဓိပ္ပာယ်ပေးသည်။

حُرُوْفُ النِّدَاءِ ဆိုသည်မှာ အသံပြုဟစ်ခေါ်ရာ၌ အသုံးပြု သော စကားလုံးများကို ခေါ်ဆိုသည်။ ၎င်းတို့မှာ (၅) လုံးရှိ သည်။ (၁) يَا (၂) أَيَا (၃) هَيَا (၄) أَيْ (၅) أَ

يَا သည် အနီး၊ အဝေး နှစ်ခုစလုံး၌ ရှိသည့်အရာကို အသံပြု ရန်အတွက် အသုံးပြုသည်။

أَيَا، هَيَا သည် အဝေး၌ ရှိသော အရာကို အသံပြုရန် အတွက် အသုံးပြုသည်။

أَ ،أَيْ သည် အနီး၌ရှိသော အရာကို အသံပြုရန်အတွက် အသုံးပြုသည်။

حُرُوْفُ الزِّيَادَةِ ဆိုသည်မှာ စကားရပ်တစ်ခုကို လှပစေရန် အပိုယူဆောင်လာသော စကားလုံးများကို ခေါ်ဆိုသည်။ ၎င်းတို့မှာ (၈) လုံးရှိသည်။ (၁) إِنْ (၂) أَنْ (၃) مَا (၄) لَا (၅) مَنْ (၆) كَ (၇) بَاءٌ (၈) لَامٌ တို့ဖြစ်သည်။ ဥပမာ– مَا إِنْ زَيْدٌ قَائِمٌ ဇိုက်သည် ရပ်နေသူမဟုတ်ပါ။

فَلَمَّا أَنْ جَاءَ الْبَشِيْرُ သို့ဖြစ်ပေရာ သတင်းယူဆောင်လာသူ ရောက်ရှိလာသောအခါ

حُرُوْفُ الشَّرْطِ ဆိုသည်မှာ သတ်မှတ်ချက်ပြ စကားလုံးများကို ခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၅) လုံးရှိပါသည်။ (၁) إِنْ (အကယ်၍) (၂) لَوْ (အကယ်၍) (၃) أَمَا (သို့ရာတွင်) (၄) مَنْ (မည်သူ) (၅) مَا (မည်သည့်အရာ)

إِنْ သည် اَلْمَاضِيْ ပေါ်တွင် ဝင်လင့်ကစား مُسْتَقْبَلٌ ၏ အဓိပ္ပာယ်ပေးသည်။ ဥပမာ– إِنْ ضَرَبْتَ ضَرَبْتُ အသင်ရိုက်လျှင် ကျွန်တော်လည်း ရိုက်မည်။

حُرُوْفُ التَّنْبِيْهِ ဆိုသည်မှာ သတိပေးရာ၌ အသုံးပြုသော စကာလုံးများကို ခေါ်ဆိုပါသည်။ ၎င်းတို့မှာ (၃) လုံးရှိပါသည်။ (၁) أَلَا (၂) أَمَا (၃) هَا

ဥပမာ– أَلَا بِذِكْرِ الله تَطْمَئِنُّ الْقُلُوْبِ (ကောင်းစွာ မှတ်ပါလေ။ အလ္လာဟ်အရှင်မြတ်၏ ဇိကိရ်တော်ဖြင့်သာ နှလုံးသည်းပွတ်များ ငြိမ်းချမ်းသာယာမှုရရှိ၏။)

# تمت ولله الحمد والمنة